# تبيان المنطق

## ယုတ္တိဗေဒ လမ်းညွှန်


ပြုစုသူ

**မွဖ်သီမိုဟမ္မဒ်အဖ်ဇလ်**


(ကန့်သတ်)

بسم الله الرحمن الرحيم

**မုဖ်သီ မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊ မဇ္ဇာဟေ့ရီ၊ အဗ္ဗလ်ဟစနီ)၏ အမှာစာ**

الـحمد للّٰه الذي أنطق كل شيئ ، والصّلاة والسّلام على من مدت عليه الـفـصـاحة رواقها ، وشدت به البلاغة نطاقها. وعلى آله وصحبه الّذين شادوا الدين وعلى من تبعهم بإحسان إلى يوم الدين . وبعد ......

ကျွန်ုပ်တို့သင်ရိုးညွှန်းတမ်းသည် အခြေခံအားဖြင့် ပညာရပ်နှစ်ခုနှင့် စီစဉ် ထားကြောင်းတွေ့ရှိနိုင်သည်။

၁။ အဓိကပညာရပ်များ

၂။ သင်ထောက်ကူ ပညာရပ်များ

အဓိကပညာရပ်များဆိုသည်မှာ---

(၁)ကုရ်အာန်၊ (၂) ဟဒီးဆ်၊ (၃)ဖေကဟ်တို့ ဖြစ်သည်။

ကုရ်အာန်ကျမ်းမြတ်သည် ဝဟီနှင့် အရှင်မြတ်ထံတော်ပါးမှ လာသော နူရီတော်များပေါ်တွင် အခြေခံထားသည့်အတွက် အရှင်မြတ် အမိန့်တော် ရှိထားသည့်အတိုင်း ဒွိဟကင်းပြီး၊ မည်သည့် အခါတွင်မျှ မှားလိမ့်မည် မဟုတ်ပေ။

အရှင်မြတ်အမိန့်ရှိတော်မူသည်မှာ---

"သို့ရာတွင် ငါအရှင်မြတ်သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို လင်း ရောင်ခြည်ပြုလုပ်တော်မူ၍ ထိုလင်းရောင်ခြည်ဖြင့် ငါအရှင်မြတ်သည် မိမိကျွန်တို့ အနက်မှ အလိုရှိတော်မူသောသူတို့အား တရား လမ်းမှန်ကို ညွှန်တော်မူသည်။" (၄၂ း ၅၂)

"အမှားသည် ယင်းကျမ်းမြတ်တွင် ၎င်း၏ ရှေ့၊ နောက်တို့မှ လာ ရောက် စွက်ဖက်နိုင်ခြင်းမရှိ။" (၄၁း၄၂)

သင်ထောက်ကူပညာရပ်ဆိုသည်မှာ ကုရ်အာန်၊ ဟဒီးဆ်၊ ဖေကဟ် များကို နားလည်ရာတွင် အထောက်အကူပေးသော ဘာသာရပ်များကို

ဆိုလိုသည်။

ဥပမာ - علم النحو ، علم الصرف ، علم البلاغة စသည်ဖြင့်

ထိုသင်ထောက်ကူဘာသာရပ်များတွင် عـلـم الـمـنطق (ယုတ္တိဗေဒ) လည်း ပါဝင်သည်။ ဤပညာရပ်များသည် လူတို့၏အတွေ့အကြုံ၊ ယူဆချက်၊ ချင့်ချိန်စံထိုးချက်များအပေါ် အခြေခံသည့်အတွက် မှန်ကန်မှုရှိနိုင်သလို မှားယွင်းမှုများလည်း ရှိနိုင်သည်။ နေ့ကစူဝ ပြောင်းလဲခြင်း၏ပစ်မှတ်လည်း ဖြစ်နိုင်သည်။ သို့သော်လည်း ချင့်ချိန်စံထိုးချက်များဖြင့် မှန်နိုင်ခြေအား များသည်အထိ တက်လှမ်းနိုင်သည်မှာ ငြင်းမရနိုင်ပါ။

သင်ထောက်ကူပညာရပ်များအနက် ဥပေက္ခာပြုခံ ပညာရပ်တစ်ခုမှာ عـلـم الـمـنـطـق (ယုတ္တိဗေဒ)ဖြစ်သည်။ ရာစုနှစ်အချို့တွင်သာ ရေပန်းစားခဲ့သောပညာရပ်ဟု ခေါင်းစဉ်တပ်၍ မျက်ကွယ်ပြုခြင်း ခံလိုက်ရသည်ဟု ကောက်ချက်ချလိုပါသည်။

လူတိုင်းအဖို့ မိမိရင်တွင်းဖြစ်ခံစားချက်များကို ထုဆစ်ပုံဖော်ရာတွင် ယုတ္တိရှိရှိ ထုတ်ဖော်တတ်ရန် လိုအပ်ပါသည်။ ထိုသို့ပုံဖော်နိုင်ရန် ကြွယ်ဝသောဗဟုသုတ၊ မိမိတင်ပြလိုသည့် အကြောင်းအရာများကို အခြားသူများ လက်ခံသွားနိုင်လောက်သည့် ချက်ချက်ကျကျ တင်ပြပုံ၊ စကားအခင်းအကျင်း အယုတ်အသိမ်း၊ မိမိပြောဆိုလိုသည့် အကြောင်းအရာ တင်ပြချက်အတွက် ထိရောက်လှသည့် အထောက်အထားပေးခြင်း စသည်တို့သည် အလွန်လိုအပ်ပါသည်။

အထက်ပါအရည်အချင်းများအတွက် عــلـم الـمـنـطـق သည်လည်း တစ်စိတ်တဒေသ ကူညီပံ့ပိုးပေးသည်မှာ ငြင်းမရနိုင်သည့် အမှန်တရားတစ်ခုဟု ဆိုချင်ပါသည်။

ထို့အတူ ရှေးယခင်က ကျွန်ုပ်တို့ကျေးဇူးရှင် ပညာရှိ ကဝိမွန်ကြီးများ ရေးသားခဲ့သည့် စာအုပ်အချို့ကို နားလည်ရာတွင် علم المنطق ၏ဝေါဟာရ

များသည် အထောက်အကူပေးကြောင်း အားလုံးအသိပင် ဖြစ်သည်။

علم الكلام (သို့) العقائد နှင့် စပ်လျဉ်း၍ ရေးသားထားသောကျမ်းများတွင် အေမာမ် အဗွလ်ဟစံအရှ်အရီ၊ အေမာမ်အဗူမန်စူးရ် မာသုရီဒီတို့၏ ကျမ်းများ၊ အေမာမ် ဂျုရ်ဂျာနီ၏ شرح المواقف ၊ အေမာမ် သဖ်သာဇာနီသခင်၏ شرح العقائد النسفية နှင့် شرح المقاصد ၊ အေမာမ် ဂျလာလွဒ္ဒီးန် ဒါဝါနီသခင်၏ شرح عقائد الجلالي ၊ အေမာမ် အိဗ်နေ့သိုင်မိယဟ်သခင်၏ الردود العقلية على الفلاسفة والمعتزلة ၊ အေမာမ် အိဗ်နု အဗိလ်အစ်ဇ်၏ شرح العقيدة الطحاوية ၊ အေမာမ် ရာဇီ၏ ကျမ်းများ၊ အေမာမ် ဂဇာလီသခင်ကြီး၏ تهافت الفلاسفة ၊ အေမာမ် အိဗ်နု ရွှရှ်ဒ်၏ التهافت على التهافت စသည့်ကျမ်းများသည် علم المنطق ဆိုင်ရာ ဝေါဟာရများနှင့် ပြည့်နက်နေပါသည်။

ထို့အတူ ဖေကဟ် (အစ္စလာမ့်ဥပဒေသိပ္ပံပညာ)ရှိ စာအုပ်များအနက် အေမာမ်စရခ်စီ၏ أصول السرخسي ၊ အေမာမ်ဗဇ်ဒဝီ၏ أصول البزدوي ၊ အေမာမ်ဒဗူစီ၏ تقويم الأدلة ၊ အေမာမ်ဂျဆ်ဆွားစ်၏ الفصول في الأصول ၊ အေမာမ် ဂဇာလီ၏ المستصفى ၊ အေမာမ် ဘိုင်ဿွာဝီ၏ المنهاج ၊ စသည့်ကျမ်းများ၏ အချို့နေရာများတွင် علم المنطق ဆိုင်ရာ ဝေါဟာရ စွမ်းအားများ ကွန့်မြူးနေသည်ကို တွေ့ရသည်။ ထိုဝေါဟာရများကို မသိရှိထားပါက ပြည့်ပြည့်ဝဝအကျိုးခံစားရန် ခက်ခဲလှသည်ကို တွေ့ရပေမည်။

အေမာမ် သွဟာဝီသခင်ကြီး၏ شرح معاني الآثار ရှိ نظر طحاوي များကို လေ့လာကြည့်ပါက မိမိ၏ ရပ်တည်ချက်အတွက် ကျမ်းမြတ်ကုရ်အာန်၊ ဟဒီးဆ်၊ ဖိက်ဟ်တို့မှ အထောက် အထားများ ပေးပြီးနောက် မြောက်များစွာသောနေရာများတွင် ယုတ္တိရှိရှိပမာများပေးကာ ရှင်းလင်းတင်ပြချက်များသည် علم المنطق အတွက် အကောင်းဆုံး စံထားလောက်သည့်ဥပမာများ ဖြစ်နေသည်။

အချုပ်ဆိုရသော် သာသနာ့ကျောင်းတော်သားများအဖို့ علم المنطق ကို "ရှေးထုံးလည်း မပယ်နဲ့ ဈေးသုံးလည်း မလွယ်နဲ့" ဆိုသည့်အတိုင်း ပြစ်ပယ်၍မရနိုင်ပါ။ အနည်းနှင့်အများ တတ်မြောက် ထားသင့်ပါသည်။

علم المنطق တွင် လုံးပမ်းခဲ့သော အချို့ဒိဋ္ဌိပညာရှင်များရှိနေသည်ကိုလည်း မငြင်းဆန်လိုပါ။ ထို့ကြောင့်လည်း အေမာမ်ဂဇာလီ သခင်ကြီးက ဤပညာရပ်ကို တစ်ဘက်ကမ်းခတ် တတ်မြောက်အောင် သင်ယူခဲ့ပြီး "သံကို သံဖြင့်၊ ယုတ္တိဗေဒကြောင့် အရှင်မြတ်နှင့် ပတ်သက်ပြီး အယူတိမ်းမှုများကို ယုတ္တိဗေဒဖြင့်"ပင် ပြန်လည်ကုစားနိုင်ခဲ့ ခြင်းဖြစ်သည်။

"خذ ما صفا ودع ما كدر" အနှစ်ချန် အကာလှန်၊ အကောင်းချစ် အဆိုးပစ်ရမည်ဆိုသော ဓမ္မစစ်သဘောဖြင့် သင်ယူကာ ပြန်လည်အသုံးချ တတ်ပါက အရာတိုင်း အကျိုးရှိသွားပါမည်။

ထို့ကြောင့် علم المنطق ကို အတိုင်းအတာတစ်ခုထိ သင်ယူ တတ်မြောက်ခြင်းမှာ အကျိုးရှိလှသည်။

ဤအကျိုးတရားများကို ရှေ့ရှုပြီး ကျွန်ုပ်၏ချစ်မိတ်ဆွေ အလ်ဟားဂျ်၊ ဟာဖိဇ်၊ မော်လာနာ၊ ကာရီ၊ မုဖ်သီ အဖ်ဇလ်က သာသနာ့ ကျောင်းတော်သားများအတွက် علم المنطق ဆိုင်ရာ အကျိုးရှိလှသည့် စာအုပ်တစ်အုပ်ကို ရေးသားခဲ့သည်။

မုဖ်သီအဖ်ဇလ်ဆပ်သည် ဤဘာသာရပ်နှင့်ပတ်သက်ပြီး နှစ်ရှည်လများ သုတေသနပြုနေပြီး၊ ကိုယ်တိုင်ကိုယ်ကျ သင်ပေးနေသူလည်း ဖြစ်ပါသည်။ အရဗီရှိ علم المنطق ဆိုင်ရာ ဝေါဟာရများကို မြန်မာ့စာပေဝေါဟာရများဖြင့် ဖလှယ်နိုင်ရန် ယုတ္တိဗေဒဆိုင်ရာ စာအုပ်များကို လက်လှမ်းမီသရွေ့ လေ့လာမှတ်သားခဲ့ပါသည်။ ထိုလေ့လာမှတ်သားထားသော အကြောင်းအရာများကို ဤကျမ်းကို ပြုစုရာတွင် ပိုင်ပိုင်နိုင်နိုင် အသုံးချနိုင်ခဲ့သည်။ သာသနာ့ပညာသင် ကျောင်းသားများအား علم المنطق

၏ဝေါဟာရများ ပါဝင်နေသည့် စာပေများကို မည်သို့ ချဉ်းကပ်လေ့လာ၊ အဖြေထုတ်ရမည် ဆိုကြောင်းလည်း သင်ပေးထားသည်။ သင်ခန်းစာတစ်ခု ပြီးဆုံးလေတိုင်း သင်ခန်းစာ၏ အနှစ်ချုပ်ကို ဖော်ပြပေးသည့် ဇယားများ ကိုလည်း အပင်ပန်းခံကာ ရေးဆွဲတင်ပြထားပါသည်။ ကျောင်းသားများ ဆက်လက်လေ့ကျင့်နိုင်စေရန် လေ့ကျင့်ခန်းများကိုလည်း တင်ပြထားသည်။ علم المنطق ဆိုင်ရာ အရဗီ+မြန်မာ ဝေါဟာရများကို လည်း သီးသန့်တင်ပြ ထားသည်ဖြစ်ရာ အကျိုးခံစားရန် လွယ်ကူသွား သည်။

ကျွန်ုပ်တို့အပေါ် တင်ရှိနေသည့် علم المنطق ဆိုင်ရာ အကြွေးများ ကို ဆရာမှ ဒုက္ခခံဆပ်ပေးလိုက်သည်ဟု ဆိုလျှင်လည်း လွန်မည်မထင်။ ဆရာသခင်၏ ကြိုးပမ်းမှုမှာ မှတ်တမ်းတင်ထိုက်ပါသည်။ စာပေအသိုင်း အဝိုင်းမှလည်း ကမ်းလင့်ကြိုဆိုထိုက်ပါသည်။

ကျောင်းတာဝန်ခံဆရာကြီးများသည်လည်း ဤစာအုပ်ကို မိမိတို့ သင်ရိုးတွင် ထည့်သွင်းသင်ကြားစေမည်ဆိုပါက မုချအကျိုးဖြစ်ထွန်းစေမည် ဖြစ်ကြောင်း သတင်းကောင်းပါးအပ်ပါသည်။

မြင့်မြတ်တော်မူသော အရှင်မြတ် ဤစာအုပ်အားဖြစ်မြောက်စေသူ၊ လေ့လာသူများကို မုချအကျိုးဖြစ်ထွန်းစေတော်မူပါ။ ကျမ်းပြုစုသည့် ဆရာ သခင်ကိုလည်း စာဖိတ်ပရိသတ်ဘက်မှ ကောင်းသောအစားများ ချီးမြှင့်ပေး သနားတော်မူပြီး ဤကဲ့သို့သော ကျမ်းများကို ဆက်လက်ပြုစုနိုင်စွမ်း ချီးမြှင့် ပေးသနားတော်မူပါစေ။ . . . အာမီးန်။

အဗ္ဗဒုလ်ဟား မုဟမ္မဒ် အာစ္လမ်

နဒ်ဝီ၊ အဗ္ဗလ်ဟာဇရီ၊ မဇ္ဇာဟေရီ

၁၅ ၊ ၁၁ ၊ ၂၀၁၇

(ဗုဒ္ဓဟူးနေ့)

ﷺ

## စာရေးသူ၏ အမှာစကား

الحمد لأهله والصلاة على أهلها . أما بعد ....

ကျောင်းသားဘဝတုန်းက ကျွန်တော်သည် တစ်ချိန်တွင် ယုတ္တိဗေဒ ပညာရပ်နှင့်ပတ်သက်ပြီး သာသနာ့ကျောင်းသားများကို အထောက်အကူ ဖြစ်စေမည့် စာအုပ်/စာပေများ ရေးမည်ဟု ဆန္ဒမရှိခဲ့ပါ။ သို့သော် အလ္လာဟ်အရှင်မြတ်၏ အလိုတော်သည် အလွန်ဆန်းကျယ်ပါသည်။

၂၀၁၄/၂၀၁၅ ပညာသင်နှစ်တွင် جامعة الكوثر الإسلامية ကျောင်း တာဝန်ခံဆရာကြီးများဘက်မှ တတိယတန်း သင်ရိုးတွင် ပြဋ္ဌာန်းထားသော (أردو) علم المنطق စာအုပ်ကို သင်ကြားရန် တာဝန် ပေးအပ်ခဲ့ပါသည်။

ထိုစာအုပ်ကို သင်ကြားနေစဉ် ကျွန်တော်သည် ဆရာတစ်ယောက် အနေဖြင့် ကျောင်းသားများ တွေ့ကြုံကြရသော အခက်အခဲများကို သိခွင့် ရခဲ့ပါသည်။ ဥပမာအနေဖြင့် ဘာသာရပ်တစ်ခု၏ အခြေခံ/မိတ်ဆက် အဖြစ် ပြဋ္ဌာန်းထားသော စာအုပ်သည် မိခင်စကားဖြင့် မဟုတ်သောကြောင့် ကျောင်းသားများအနေဖြင့် ထိုစာအုပ်ကို ထိုက်သင့်သည့်အတိုင်းအတာထိ နားလည်ရန်၊ ထိုစာအုပ်တွင် ပါဝင်သောဝေါဟာရများနှင့် အဓိပ္ပါယ် ဖွင့်ဆိုချက်များကို ကျက်မှတ်ရန် အခက်အခဲများကို တွေ့ကြုံကြရသည်။

ဆရာတစ်ယောက်အနေဖြင့် ထိုအခက်အခဲကိုသိပြီးနောက် ကျောင်း သားများ စာကိုနက်နက်ရှိုင်းရှိုင်းနားလည်စေရေးအတွက် မိမိတတ်နိုင်သည့် ဘက်မှ ကူညီပံ့ပိုးပေးရန် ဆန္ဒဖြစ်ပေါ်ခဲ့သည်။ ကျောင်းတော်ကြီးဘက်မှ ဤဘာသာရပ်ကို မြန်မာမှုပြုရန် စနစ်တကျတာဝန်မပေးအပ်သော်လည်း မိမိတတ်နိုင်သည့် အတိုင်း အတာထိ မြန်မာမှုပြုရန် ဆန္ဒပြုလိုက်ပါသည်။

ထိုသို့ဆန္ဒဖြစ်ပေါ်လာပြီးနောက် နေ့စဉ် နေ့လယ်စာ ထမင်းစားပြီး ခေတ္တအိပ်စက်အနားယူသည့်အချိန် အနားမယူဘဲ တစ်နေ့သင်ခန်းစာကို တစ်နေ့မသင်မီ ကြိုတင်ပြီး အတတ်နိုင်ဆုံး မြန်မာမှု စတင်ပြုခဲ့ပါသည်။

မြန်မာစာကို မှန်မှန်ကန်ကန်၊ ရှင်းရှင်းလင်းလင်း၊ ကျစ်ကျစ် လျစ်လျစ်၊ ပြေပြေပြစ်ပြစ်၊ လိုက်ဖက်ညီညီ ရေးတတ်ရန်မှာ အခြေခံလိုအပ်ချက် တစ်ရပ်ဖြစ်ပြီး သတ်မှတ်ထားသော သင်ခန်းစာပုံစံများနှင့်အညီ ရေးတတ်ရန်မှာ နောက်တစ်ဆင့်လိုအပ်ချက် ဖြစ်ပါသည်။

ပထမအဆင့်အနေဖြင့် ကျွန်တော်သည် ကျောင်းသားများ စာကို လွယ်ကူစွာနာလည်ပြီး ကျက်မှတ်နိုင်ရန်သာ သင်ရိုး အထောက်အကူပြု စာတမ်းတစ်ခု ရေးသားပြုစုသည့်အနေဖြင့် စတင် ရေးသားပြုစုခဲ့ပါသည်။

ဤသို့ဖြင့် တဖြေးဖြေး နှစ်ကုန်ပိုင်းရောက်လာသည့်အခါ စာတမ်း တစ်ခု ဖြစ်လာခဲ့သည်။ ထိုစာတမ်းသည် ကျောင်းသားများနှင့် ဆရာများ အတွက် သင်ရိုးထောက်ကူစာတမ်းအဖြစ် အသုံးဝင်သောကြောင့် အချို့ ဆရာများဘက်မှ ထိုစာတမ်းကို ထပ်မံပြီး ကျစ်ကျစ် လျစ်လျစ်၊ ပြေပြေ ပြစ်ပြစ်ဖြစ်အောင် ပြုလုပ်ရန်နှင့် ဝေါဟာရများအားလုံးကို မြန်မာမှုပြုရန် တောင်းဆိုခဲ့ကြပါသည်။ ကျွန်တော့်ဘက်မှ အကြိမ်ကြိမ် ငြင်းဆိုခဲ့သော်လည်း ((ခင်ဗျားလုပ်နိုင်သည်၊ ခင်ဗျား မလုပ်လျှင် လုပ်မည့်သူမရှိပါ))ဟု အားပေးစကားများပြောဆို၍ တွန်းအားပေးကြပါသည်။ ပထမတော့ ကျွန်တော် သည် ရေးရန် လက်တွန့်နေခဲ့ပါသည်။ နောက်ပိုင်း တဖြေးဖြေး မိမိလက် လှမ်းမှီရာ စာအုပ်၊ စာပေများကို ရှာဖွေစုဆောင်း၍ အကြောင်းအရာ၊ အချက်အလက်များနှင့် ဝေါဟာရအချို့ကို လေ့လာမှတ်သားခဲ့သည်။ တစ်ခါတရံ စာအုပ်တစ်အုပ်လုံးဖတ်ပြီးမှ မိမိစာတမ်းနှင့်အပ်စပ်သည့် ဝေါဟာရ တစ်ခု၊ နှစ်ခုကိုသာ ရခဲ့ပါသည်။ ထို့အတူ ဇင်းဘာသာရပ်ကို နောင်နှစ်များတွင် ဆက်လက်သင်ကြားခွင့်

ရခဲ့ပါသည်။ ထိုအခါမျိုးတွင် မိမိလေ့လာမှတ်သားထားသည့် ဝေါဟာရများကို အလျင်းသင့်တိုင်း စာအုပ်တွင် ထည့်သွင်းရန် ကြိုးစားခဲ့ပါသည်။

လေ့လာမှတ်သားရသည့် စာအုပ်စာပေ မလုံလောက်သည့် ကြားက ကျွန်တော်သည် ဤစာအုပ်ကို အတိုင်းအတာတစ်ခုထိ မြန်မာမှုပြုနိုင်ခဲ့သည်။ သို့သော် ရိုက်နှိပ်ထုတ်ဝေပေးရန် လုံလောက်ပြီဟု မယူဆရပါ။ အချို့သာသာနာ့ကျောင်းများ ဘက်မှ ရိုက်နှိပ်ထုတ်ဝေပေးရန် အကြိမ်ကြိမ်တောင်းဆိုလာသည့်အတွက် ((အနည်းဆုံးတော့ ဤစာအုပ်သည် ယုတ္တိဗေဒကို လေ့လာသင်ယူနေသော ကျောင်းသားများအတွက် ဘာသာရပ်၏ အခြေခံကို နားလည်ရန်နှင့် ထပ်မံ၍ မြန်မာမှုပြုလိုသူများအတွက် အတိုင်းအတာတစ်ခုအထိ အထောက် အကူဖြစ်နိုင်ပါသည်))ဟု စဉ်းစား၍ ထုတ်ဝေလိုက်ရပါသည်။

မည်မျှပင် စိစစ်ထားသော်လည်း လူသားများ၏ ကြိုးပမ်းမှုဖြစ်နေသောကြောင့် အမှားမကင်းနိုင်ပါ။ အမှားများနှင့် လိုအပ်ချက်များတွေ့ရှိပါက စာရှုသူများမှ ဤဖုံးနံပါတ် (09974486090) ကို ဆက်သွယ်၍ အကြောင်းကြားအသိပေးပါရန် အထူးမေတ္တာရပ်ခံပါသည်။ إن شاء الله နောင်ပုံနှိပ်သည့်အခါ ပြင်ဆင်ဖြည့်စွက်သွားပါမည်။

စာအုပ်ဖြစ်မြောက်ရေးတွင် အကူအညီပေးသူများကို အထူးကျေးဇူးတင်အပ်ပါသည်။

အထူးသဖြင့် စိတ်ဓာတ်မြှင့်တင်ပေးသော ကျွန်တော်၏ လက်ဦးဆရာ မောင်လာနာ မိုဟမ္မဒ်ဟေရှားမ်(နဒ်ဝီ)နှင့် မောင်လာနာ ဇူဟီးရ်အဟ်မဒ်ဆပ်၊ မြန်မာစာစိစစ်ပေးသော ဆရာ ဦးအေးမူ၊ ဆရာ ဇကရိယာ၊ စာအုပ်ကို စာစီပေးသော ဆရာ အဗ်ဒုရ်ရှုကူးရ်နှင့် စာအုပ်အဖုံး ဒီဇိုင်းဆွဲပေးသော ဆရာ မိုဟမ္မဒ် (အလ်ကောင်စရီ)၊ စာအုပ်ဖြစ်မြောက်ရေးတွင် အထူးကူညီပံ့ပိုး

ပေးသော ကျွန်တော်၏နောင်တော် မုဖ်သီအာစွင်းမ် (နဒ်ဝီ၊ မဇွာဟေရီ၊ အဗ္ဗလ်ဟာစနီ)နှင့် တပည့်များအနက်မှ ရိဇ်ဝါးန်(ပြွန်တန်ဆာ)၊ အရှ်ရဖ်(ခိုလမ်)၊ အင်န်အာမွလ်ဟာစံ(ရန်ကုန်)၊ အိုစားမဟ်(သာဂရ)၊ ဇိုဒ်(ကျောက်ဆည်)တို့ကိုလည်း အထူးကျေးဇူးတင်အပ်ပါသည်။ စာအုပ်ဖြစ်မြောက်ရေးတွင် ကူညီပံ့ပိုးသူများအား ဒွန္နယာ၊ အာခေရသ် နှစ်ဌာနစလုံးတွင် အရှင်မြတ်ဘက်တော်မှ အကောင်းဆုံးသောအစားများ ချီးမြှင့် တော်မူပါ။ . . . . . အာမီးန်

محمد أفضل

(أستاذ جامعة الكوثر الإسلامية)

# စာအုပ်သင်ကြားနည်းလမ်းညွှန်

စာသင်ခန်းသို့ မသွားမီနဖ်လ်နမားဇ်(၂)ရကအသ်ဖတ်၍ အရှင့်ထံမှ "အိုအလ္လာဟ် ဤစာအုပ်၏သင်ပေးသင်ယူမှုအား ကျွန်တော်မျိုးတို့ အတွက် ဟေဒါယသ်၏အကြောင်းခံ ဖြစ်စေတော်မူပါ။"ဟု တောင်းဆို၍ စာမသင်မီ အလျင် ဤဒိုအာကို ဖတ်ပါ။

اَللّٰهُمَّ مَتِّعْنَا بِه وَمَتِّعْهُ بِنَا

၁။ ပထမဦးစွာ ဘာသာရပ်နှင့် မိတ်ဆက်ပေးပါ။ ထိုသို့မိတ်ဆက်ရာတွင် مبادئ العلم العشرة (ပညာရပ်ဆိုင်ရာ အခြေခံသုတများ) ဖြစ်သော ဘာသာရပ်၏(၁) အမည်နာမ (၂) အဓိပ္ပါယ်ဖွင့်ဆိုချက် (၃)အထူး လေ့လာရာနယ်ပယ် (၄) အကျိုးပြုပုံ (၅) အခြားဘာသာရပ်များနှင့် ဆက်နွယ်ပုံ (၆) ပေါ်ပေါက်လာပုံ (၇) အဆင့်အတန်း (၈) မျိုးစေ့ချခဲ့ သူများ (၉) လေ့လာရသည့်အကြောင်းအရာများနှင့် (၁၀) သင်ယူ ခြင်းဆိုင်ရာ တရားတော်မြတ်လာအမိန့်တို့ကို အထူးတင်ပြပါ။

၂။ ဘာသာရပ်နှင့်မိတ်ဆက်ပေးရာတွင် ဤဘာသာရပ်၏လေးနက်မှု၊ အရေးပါမှု၊ ကုရ်အာန်ဟဒီးဆ်နှင့်အခြားဖိကဲဟ်ဆိုင်ရာ မတ်စ်အလဟ် များတွင် အထောက်အကူပြုမှုကို တင်ပြပေးပါ။

၃။ သင်ခန်းစာ၏အနှစ်ချုပ်ကို တင်ပြပြီး منطق ဆိုင်ရာ ဝေါဟာရများ ကို ဦးစွာကျက်မှတ်ခိုင်းပါ။ ထို့နောက် ကျောင်းသားများ လွယ်ကူစွာ နားလည်သဘောပေါက်နိုင်သည်အထိ ဥပမာများများပေး၍ ရှင်းပြ ပါ။ ကျောင်းသားများ ဝေါဟာရများကို သဘောမပေါက်သေးသရွေ့ ယင်းဝေါဟာရကိုသာသုံး၍ မရှင်းပါနှင့်။ (ဥပမာ - قضية သည် အဘယ်အရာဖြစ်သည်ကို နားမလည်သေးပဲ "ဤအရာ قضية ဖြစ် သည်" ဟု ပြောဆိုခြင်း။)

၄။ သင်ခန်းစာများကို မြန်မာလို ကျက်ခိုင်းပြီး မြန်မာလိုသာမေးပါ။

၅။ စာအုပ်ပါလေ့ကျင့်ခန်းများကိုလည်း စနစ်တကျပြုလုပ်စေပြီး နေ့စဉ် မပျက်မကွက် စစ်ဆေးပါ။

၆။ သင်ခန်းစာတစ်ပုဒ် ကြေညက်မှုမရှိသေးပဲ ရှေ့သင်ခန်းစာကို လုံးဝ အစမပြုပါနှင့်။

**မှတ်ချက်(၁)** ။ ။ ဆရာသည် ကျောင်းသားများအား သင်ခန်းစာ အသစ် ကြိုတင်လေ့လာခြင်းနှင့် စာဟောင်းကျော့ခြင်း တို့ကို နေ့စဉ်အထူးကြပ် မတ်ပေးပါ။ စာဟောင်းများကို ပြန်လည်မေးမြန်းရာတွင် ကျောင်းသားများ၏ တော်၊ လတ်၊ ညံ့ ဉာဏ်ရည် အဆင့်နှင့်အညီ စစ်ဆေးပေးပါ။ ညံ့သူကို များများ မေးပါ။

**မှတ်ချက်(၂)** ။ ။ လ၏ နောက်ဆုံးအပတ် သင်ခန်းစာ သင်ကြားရမည့်နောက်ဆုံးရက်၌ တစ်လလုံးတွင် သင်ကြားခဲ့သော သင်ခန်း စာများကို စစ်ဆေးရန် လပတ် စာမေးပွဲ စနစ်ကို ထားပေးပါ။

**မှတ်ချက်(၃)** ။ ။ ဤစာအုပ်ကို သင်ကြားရန် مطالعة လုပ်သည့်အခါ အခြား علم المنطق ဆိုင်ရာ စာအုပ်များကိုလည်း လေ့လာ မှီငြမ်းပါ ။

ဥပမာ - تسهيل المنطق ۔ تيسير المنطق ۔ تفهيم المنطق စသည်ဖြင့်။

# المحتويات

## မာတိကာ

بسم الله الرحمن الرحيم

# منطق ပညာ၏ အဖွင့် နိဒါန်း

**منطق** ဆိုသည်မှာ . . . . .

**مـــنـطـق** (ဝါ) ယုတ္တိဗေဒ (ဝါ) logic သည် ဒဿနိကဗေဒ (ဝါ) philosophy ၏ အကိုင်းအလက်များအနက်မှ တစ်ခုဖြစ်ပါသည်။ ထိုပညာရပ်သည် ဒဿနိကဆိုင်ရာ ကျိုးကြောင်း၊ ဆင်ခြင်မှု နည်းလမ်းများ ပါဝင်သော ပညာရပ်ဖြစ်ပါသည်။ ယနေ့ခေတ် ပတ်ဝန်းကျင်တွင် အလွန်ရှားပါးသော အမြင်တစ်ခု (သို့မဟုတ်) ပညာရပ်တစ်ခုဟု ဆိုနိုင်ပါသည်။ ယုတ္တိဗေဒကို အလွှာအသီးသီးမှ အသက် အရွယ်မရွေး လူတန်းစားများသည် မိမိတို့၏ဘဝများတွင် တွေ့ကြုံမိကြသော်လည်း သတိမထားမိလိုက်ကြပါ။ "ယုတ္တိကျကျ၊ ယုတ္တိရှိရှိ လုပ်ပါ". . . . ဟု ပြောနေကြသောစကားလုံးများကို ကြားဖူးကြပါသည်။ သို့သော် အပ်ကျ မက်ကျ ဘယ်လို ယုတ္တိရှိအောင် ဆင်ခြင်စဉ်းစားသင့်ကြအံ့ပါသနည်း။

## منطق ပညာရပ်ကို ယုတ္တိဗေဒဟု ပြန်ဆိုလျှင် မှန်သလော . . .

ယခင်က (logic)ကို တက္ကဗေဒဟူ၍ ပြန်ဆိုလေ့ရှိခဲ့သည်။ ပါဠိစကား တက္က၊ သုတ္တတဝေါဟာရဖြစ်သော Tarka (Doubt) နှင့် အတက္ကဝါစရ ဖြစ်သည့် စိတ်ကူး၍ ပြောမရသော စသည့်သဘောများကို အခြေခံကာ ပြန်ဆိုခဲ့ဟန်တူသည်။ ထိုသို့ ပြန်ဆိုခြင်း သည် (logic)၏ အနှစ်အဓိပ္ပါယ်ကို ဖေါ်ပြရာမရောက်သဖြင့် ယခုအခါ ယုတ္တိဗေဒဟူ၍ ပြန်လည်ပြင်ဆင်ကာ ပြန်ဆိုကြသည်။ (logic)သည် အကြောင်းအကျိုးနှင့်ယှဉ်၍ ဆင်ခြင်စဉ်းစားရာ၌ ဆီလျော်စပ်ဟပ်မှုရှိခြင်း မရှိခြင်း၊ ကိုက်ညီမှုရှိခြင်း မရှိခြင်းကို စနစ်တကျလေ့လာရသော ပညာရပ်ဖြစ်သဖြင့် ၎င်းကို ယုတ္တိဗေဒ ဟူ၍ ပြန်ဆိုခြင်းသည် တက္ကဗေဒဟူသော ဝေါဟာရထက် ပို၍ တိကျမှန်ကန်သည်ဟု ဆိုရမည်။

## منطق ၏ အခြေခံသဘောတရား . . .

ယုတ္တိဗေဒပညာရပ်၏အခြေခံသဘောကို ကောင်းစွာနားလည်ရန် ဦးစွာ အကြောင်းအကျိုးနှင့်ယှဉ်သော ဆင်ခြင်ကြံဆခြင်းသဘောကို သိနှင့်ထားရမည်။ ဆင်ခြင်ခြင်းဟူသည် စဉ်းစားပုံစဉ်းစားနည်း တစ်မျိုးဖြစ်၏။ သို့သော် လူတို့၏ စိတ်ကူး၊ ကြံစည်စဉ်းစားမှု မှန်သမျှကို ဆင်ခြင်ကြံဆခြင်းဟူ၍ မခေါ်နိုင်ပေ။

လူသည် မိမိ၏ နေ့စဉ်ဘဝတွင် အမျိုးမျိုးအဖုံဖုံ စိတ်ကူး တွေးတောကာ စဉ်းစားနေရသော သတ္တဝါဖြစ်သည်။ ဆင်ခြင်ခြင်းသည် အခြားသော စဉ်းစားခြင်းမျိုးနှင့် မတူပေ။ အယူအဆတစ်ခု သို့မဟုတ် တင်ပြလိုသော အချက်တစ်ချက်ကို ခိုင်လုံသောအထောက် အထားပေး၍ ၎င်းအထောက်အထားများနှင့် မည်သို့ဆက်စပ်၍ ရလဒ် ရရှိလာနိုင်သည်ကို ပြသခြင်းဖြစ်သည်။ ဤသို့ ဆင်ခြင်ရာတွင် သိရှိပြီးသော အချက်အလက်များကို အခြေခံ၍ သို့မဟုတ် ခြုံငုံ၍ တိုးချဲ့ဆင်ခြင်ခြင်း ပြုနိုင်သကဲ့သို့၊ ၎င်းအချက်အလက်များတွင် ငုတ်ကွယ်နစ်မြုပ်နေသည့် မထင်မရှားသော အချက်တစ်ချက်ကို ရှင်းလင်းဖော်ထုတ်ရန်အတွက် ဆင်ခြင်မှုလည်း ပြုနိုင်ပါသည်။

ဥပမာအားဖြင့် အိမ်ရှင်မတစ်ဦးသည် နံနက်စောစော အိပ်ရာကနိုးပြီး ယနေ့နံနက်စာအတွက် ထမင်းအိုး တည်ထားစဉ် အဝတ်လျှော်မည်၊ ပြီးလျှင် ကြမ်းတိုက်မည် စသည့်စိတ်ကူးတွေးတောမှု အမျိုးမျိုးကို ပြုလေ့ရှိသည်။ ဤသို့ စိတ်ကူးလိုက်ခြင်းကို စဉ်းစားနေခြင်းဟု ခေါ်နိုင်သော်လည်း ထိုသို့တွေးတောခြင်းသည် ဆင်ခြင်မှု မမည်ပေ။

ဆင်ခြင်စဉ်းစားရာ၌ ရည်ရွယ်ချက်တစ်ခုခု ပါရှိရမည်။ တစ်စုံတစ်ခုသော ဆုံးဖြတ်ချက်ပန်းတိုင်သို့ ရောက်အောင် မိမိ၏စိတ်ကူးချက်များကို ဆက်စပ်ကာ တွေးတောကြံဆလိုက်ခြင်းဖြစ်သည်။ ဖော်ပြပါ အိမ်ရှင်မ၏

အခြားသော စိတ်ကူးပုံ စိတ်ကူးနည်းတစ်မျိုးကို ဥပမာအဖြစ် တင်ပြမည်။

အဆိုပါ အိမ်ရှင်မသည် မီးဖိုဆောင်သို့ ဝင်ရောက်သွားရာ၌ အပြင်ဘက်သို့ ထွက်သွားသော မီးဖိုတံခါးပွင့်နေသည်ကို တွေ့လိုက်လျှင် အောက်ပါစိတ်ကူးချက်များ ပေါ်လာနိုင်သည်။

ဦးစွာ အဘယ်ကြောင့် တံခါးပွင့်နေသနည်းဟူသော မေးခွန်းပေါ်လာမည်။ ထို့နောက် ထိုမေးခွန်း သို့မဟုတ် ထိုပြဿနာအတွက် ဆက်လက်စဉ်းစားကာ အဖြေရှာမည်။ ညပိုင်းက သူခိုးများ ဝင်လာသလားဟူ၍ စတင်ပြီး စဉ်းစားကောင်း စဉ်းစားမည်။ ချက်ချင်းလိုလိုပင် မီးဖိုဆောင်ရှိ ပစ္စည်းများ ပျောက် မပျောက်ကို စစ်ဆေးမည်။ ဝတ္ထုပစ္စည်း မှန်သမျှ လက်ရာ ခြေရာမပျက် ပျောက်ဆုံးခြင်းမရှိဘဲ နဂိုအတိုင်း ရှိနေ သည်ကို တွေ့လိုက်ရသည့်အတွက် သူခိုးမဝင်ကြောင်း သိလာသည်။ အိမ်သားတစ်ယောက်ယောက်များ အပြင်သို့ ထွက်သွားလေသလားဟူ၍ ဆက်လက်တွေးတောပြန်သည်။ အိပ်ခန်းအတွင်းသို့ ဝင်ရောက်ကြည့်ပြန်ရာ မည်သူတစ်ယောက်မျှ မနိုးသေးဘဲ အိပ်ပျော်နေကြသည်ကို တွေ့ရပြန်လျှင် သူတို့တစ်ဦးဦးကြောင့် မီးဖိုတံခါးပွင့်နေခြင်း မဟုတ်နိုင်ကြောင်းကိုလည်း သိလာပြန်သည်။ သို့နှင့် လေတိုက်၍ ပွင့်သွားသလားဟူသော မေးခွန်းတစ်ခု ပေါ်လာပြန်သည်။ တံခါးသော့ခိုင်သဖြင့် လေတိုက်ရုံမျှဖြင့် မပွင့်နိုင်ကြောင်းကို တွေးမိပြန်သည်။ ထိုသို့ အတန်ကြာ စဉ်းစားပြီးမှ နောက်ဆုံးတွင် အိမ်သားတစ်ဦးဦးသည် လွန်ခဲ့သော ညပိုင်းက အပြင်သို့ ထွက်သွားပြီးနောက် ပြန်ဝင်လာစဉ် တံခါးပြန်ပိတ်ရန် မေ့နေသောကြောင့်သာ ဖြစ်ရမည်ဟု ဆုံးဖြတ်ကာ အခြားသောအလုပ်များကို ဆက်၍လုပ်လေတော့သည်။

အိမ်ရှင်မ၏ အထက်ပါအတိုင်း စိတ်ကူးတွေးတော ကြံဆလိုက်ခြင်းကို ဆင်ခြင်ခြင်းဟု ခေါ်ရမည်။ ပွင့်နေသော မီးဖိုဆောင် တံခါးအတွက် အဖြေရလိုသည့် ရည်ရွယ်ချက်ဖြင့် စိတ်ကူးလိုက်ခြင်းဖြင့် ထိုသို့စဉ်းစာ

ရာတွင် မိမိ၏စိတ်ကူးချက်တစ်ခုစီကို အကြောင်း အကျိုးနှင့်ယှဉ်၍ ဆက်စပ်ကာ အဖြေတည်းဟူသော ပန်းတိုင်သို့ ရောက်သွားအောင် စဉ်းစားလိုက်ခြင်းဖြစ်၏။

ထို့ကြောင့် ဆင်ခြင်ခြင်းဟူသည်မှာ စိတ်ကူးချက်တစ်ခု သို့မဟုတ် အသိတစ်ခုကို အခြားသောစိတ်ကူးချက်များ သို့မဟုတ် အသိများမှတဆင့် တွေးယူထုတ်ဖော်လိုက်ခြင်း ဖြစ်သည်။ အကြောင်း အကျိုးနှင့်ယှဉ်၍ စဉ်းစားကြံဆခြင်းဟူ၍လည်း ဆိုနိုင်သည်။

## منطق ပညာ၏ ဝေါဟာရ သဘောတရားအချို့ . . .

ယုတ္တိဗေဒအနေဖြင့် ရရှိလာသောအဖြေ သို့မဟုတ် ထုတ်ဖော်လိုက်သောအသိကို "နိဂုံး" ဟုခေါ်ဆိုသည်။ နိဂုံးပေါ်လာရန်အတွက် အထောက်အကူပေးလိုက်သော အကြောင်းပြချက်အသိများကို "နိဒါန်း"ဟူ၍ အမည်တပ်လိုက်သည်။ ထို့ကြောင့် ဆင်ခြင်ခြင်းဆိုသည် "နိဒါန်းအသိများ"အပေါ် အခြေခံအကြောင်းပြု၍ ဆက်စပ်ကာ "နိဂုံးအသိ"ကို ဖေါ်ထုတ်လိုက်သော စဉ်းစားတွေးတောခြင်းပင် ဖြစ်သည်။

ဆင်ခြင်စဉ်းစား၍ ရရှိလာသောအသိကို "ဆင်ခြင်သိ"ဟု ခေါ်သည်။ ၎င်းကို "အာရုံသိ"နှင့် ခွဲခြားနားလည်အပ်သည်။ မည်သို့မျှ စိတ်ကူးတွေးတောနေစရာ မလိုဘဲ အာရုံငါးပါးဖြင့် တိုက်ရိုက်သိရှိခံစားလာသော အသိမှန်သမျှကို "အာရုံသိ"ဟု ခေါ်သည်။ အထက် ဖေါ်ပြပါဥပမာ၌ တံခါးပွင့်နေခြင်း၊ ပစ္စည်းများ မပျောက်ဆုံးဘဲ ရှိနေခြင်း၊ အိမ်သားများ အိပ်ပျော်နေခြင်း၊ တံခါးသော့ ခိုင်ခံ့ခြင်း စသောအိမ်ရှင်မ၏အသိများသည် အာရုံငါးပါးဖြင့် တိုက်ရိုက်သိရသော အသိများဖြစ်၏။ သူခိုးမဝင်ကြောင်းကိုမူ တိုက်ရိုက် ကိုယ်တွေ့သိရခြင်းမဟုတ်ပေ။ ထိုအသိကို အခြားသောသိချက်များမှ သို့မဟုတ် နိဒါန်းအသိများမှတဆင့် တွေးယူဖေါ်ထုတ်ခြင်းဖြင့် သူခိုး

ဝင်လျှင် ပစ္စည်းပျောက်မည်။ သို့သော် ပစ္စည်းမပျောက်။ ထို့ကြောင့် သူခိုး မဝင်ပါဟူ၍ ဆင်ခြင်တွေးတောခြင်းဖြင့် သိလာသော အသိတစ်ခုဖြစ်သည်။ ထိုနည်းတူပင် လေတိုက်ခတ်မှုကြောင့် တံခါးပွင့်ခြင်း မဟုတ်ဟူသော အသိနှင့် အိမ်သားတစ်ဦးဦး၏ မေ့လျော့မှုကြောင့် ဖြစ်မည်ဟူသော အဖြေသည် သက်ဆိုင်ရာ နိဒါန်းများ သို့မဟုတ် အကြောင်းပြချက်များမှ တဆင့် ထုတ်ဖော်လိုက်သော အသိများဖြစ်သည်။

ယုတ္တိဗေဒအလိုအရ သက်ဆိုင်ရာ နိဒါန်းများနှင့် ၎င်းတို့မှတဆင့် ဖော်ထုတ်လိုက်သော နိဂုံးပါနေသည့် ဆင်ခြင်မှုတစ်ရပ်ကို “ဆင်ခြေ”ဟု ခေါ်ဆိုသည်။

ဤသည်မှာ တဒင်္ဂအတွင်း ဆင်ခြင်လိုက်သော အိမ်ရှင်မ၏ဆင်ခြင် ကြံဆမှု တစ်ခုလုံးကို အသေးစိတ်၍ ခွဲခြားဖော်ပြခြင်းသာဖြစ်သည်။ ဆင်ခြင်ခဲ့သူ အိမ်ရှင်မကိုယ်တိုင်က ဤကဲ့သို့ ဆင်ခြင်ခဲ့ကြောင်းကို အနုစိတ် သိလိုမှ သိမည်။ လက်တွေ့ဆင်ခြင်ရာ၌ လျင်မြန်လွန်းသဖြင့် လူသာမန်များ အနေဖြင့် ထင်ရှားသော စိတ်ကူးချက်များကိုသာ သတိပြုလေ့ရှိကြသည်။ ထင်ရှားသောစိတ်ကူးချက်တစ်ခုနှင့် တစ်ခုအကြားတွင် မထင်မရှား ဆက်စပ်ပေးသော အသိများကိုမူ သတိမပြုမိဘဲ ရှိတတ်ပေသည်။

## منطق ပညာ၏ တာဝန် . . . .

ဆင်ခြင်မှုကို ခွဲခြမ်းစိတ်ဖြာခြင်း၊ အသေးစိတ်ဖော်ပြ၍ စိစစ်ခြင်း၊ ဆင်ခြင်ပုံ ဆင်ခြင်နည်းနှင့် ဆင်ခြေအမျိုးမျိုးကို လေ့လာခြင်းသည် ယုတ္တိဗေဒ၏ တာဝန်တစ်ရပ်ဖြစ်သည်။ အထူးသဖြင့် ဆင်ခြေတို့၏ ဆင်ခြင် မှန် မမှန်ကို စစ်ဆေးခြင်းသည် ယုတ္တိဗေဒ၏အဓိကလုပ်ငန်းတစ်ရပ် ဖြစ်သည်။ ထို့ကြောင့်လည်း ယုတ္တိဗေဒဆိုသည်မှာ ဆင်ခြေများ ယုတ္တိရှိခြင်း မရှိခြင်း ယုတ္တိတန်ခြင်း မတန်ခြင်းကို စိစစ်ဆုံးဖြတ်ရသော ပညာဖြစ်သည်

ဟူ၍လည်း အဓိပ္ပါယ်ဖွင့်ဆိုနိုင်သည်။

## ယုတ္တိဗေဒက စိတ်ဝင်စားသည်မှာ . . .

(၁) လူတို့သည် ယေဘုယျအားဖြင့် မည်သို့ ဆင်ခြင်တတ်ကြသည်ကို လေ့လာစုံစမ်းရန်၊

(၂) ဤသို့ လေ့လာရာမှ ဆင်ခြင်ခြင်း၏ အခြေခံသဘောတရားများ ဖေါ်ထုတ်ပြသရန်၊

(၃) မှန်ကန်သော ဆင်ခြင်မှု နှင့် မှားယွင်းသော ဆင်ခြင်မှုတို့ကို ခွဲခြားရန် အတွက် စံနှုန်းများ ချမှတ်ရန် ၊

(၄) ၎င်းစံနှုန်းများနှင့်အညီ လိုက်နာရန် စည်းကမ်း နည်းလမ်းများ ချမှတ်ပေးရန် . . . . . တို့ဖြစ်ကြသည်။

အထက်ပါအချက်အလက်များကို ကြည့်ခြင်းဖြင့် ယုတ္တိဗေဒသည် မည်သို့ ဆင်ခြင်မှုပြုသင့်သည်ကို ဖေါ်ထုတ်ရန် အဓိကဖြစ်သဖြင့် လူတို့ ဆင်ခြင်မှုပြုသည့်ဖြစ်ရပ် အကြောင်းအရာ အချက်အလက်များကို စိတ်ဝင်စားခြင်းမဟုတ်ဘဲ လူတို့၏ ဆင်ခြင်မှု ပုံစံများကို လေ့လာခြင်းသာ ဖြစ်သည်ဟု ဆိုရမည်။ မည်သည်ကိုကား ဆင်ခြင်သည်ကို မသိလိုပေ။ ဆင်ခြင်မှုပြုလျှင် မည်သို့ပြုသင့်သည်ကိုသာ အဓိကထားသည်။ ထို့ကြောင့် လူ၏ဆင်ခြင်မှုသည် ယုတ္တိဗေဒ၏ လေ့လာရာနယ်ပယ်ဟု ဆိုရသော်လည်း ၎င်းဆင်ခြင်မှုကို အရှိအတိုင်း၊ ဖြစ်နေသည့်အတိုင်း လေ့လာခြင်းမဟုတ်ဘဲ မည်သို့ဖြစ်သင့်သည်အထိ လမ်းညွှန်မှုပြုသင့်သည်ဟု ဆိုရပေမည်။

အကြောင်းအရာ မှားပြီး ဆင်ခြင်မှန်သော ဥပမာ - - -

(၁) ကြောင်များသည် ခွေးများဖြစ်ကြသည်။

(၂) ခေါင်းနှစ်လုံးရှိသော သတ္တဝါများသည် ကြောင်များ ဖြစ်ကြသည်။

(၃) ထို့ကြောင့် ခေါင်းနှစ်လုံးရှိသော သတ္တဝါများသည် ခွေးများ

ဖြစ်ကြသည်။

ဤဆင်ခြေ၏ နိဒါန်းနှစ်ခုလုံးနှင့် နိဂုံးတို့သည် အကြောင်းအရာ မှန်သောအဆိုများ မဟုတ်ပေ။ မှန်သည်ဟု မည်သူမျှ လက်ခံနိုင်မည့်အဆို များ မဟုတ်ပေ။ သို့သော် ဆင်ခြင်မှုအရ ကြည့်မည်ဆိုလျှင် ထိုဆင်ခြေ သည် ဆင်ခြင်မှန်ဖြစ်သည်။

## منطق ပညာရပ်ကို အဘယ်ကြောင့် သင်ယူရပါသနည်း . . .

ကျွန်ုပ်တို့သည် (logic)၏ သဘောများကို မိမိတို့စိတ်တွင် ရင့်သန် ခိုင်မာလာစေရန်အလို့ငှာ ထိုပညာရပ်ကို လေ့လာသင်ယူပါသည်။ ၎င်း ယုတ္တိဗေဒ (ခေါ်) (logic)ကျကျ ဆင်ခြင်မှုသည် အဖိုးတန်သလို အရေးပါ အရာရောက်ပါသည်။

မေးခွန်း။ ။ منطق ပညာသည် ဒဿနိက၏ အကိုင်းအလက်များ အနက်မှဖြစ်လျှင် ဒဿနိက၏ အခြေခံသဘောတရားကို ရှင်းပြပါ။

အဖြေ။ ဒဿနိကသည် ပါဠိဝေါဟာရသာဖြစ်ပြီး မူရင်းအဓိပ္ပါယ်မှာ ကြည့်ခြင်း၊ မြင်ခြင်း သို့မဟုတ် သိမြင်ခြင်းဟု ဆိုနိုင်ပါသည်။ ယင်းကိုပင် အတွေးအခေါ်ဘာသာရပ်၊ အတွေးအမြင်ဘာသာရပ်ဟု မြန်မာမှု ပြုကြ ပါသည်။ အတွေးအခေါ်ဟူသောဝေါဟာရထက် အတွေးအမြင်ဟူသော ဝေါဟာရသည် ပို၍ကောင်းပါသည်။ အတွေးအခေါ်ဟူသောဝေါဟာရမှာ တွေးတောစဉ်းစာမှုကိုသာ ကိုယ်စားပြုပြီး ထိုးထွင်းသိမြင်ခြင်းကို ရာနှုန်းပြည့် မဖေါ်ဆောင်နိုင်သလို ထင်ရပြီး တွေးတောရုံ တွေး၍ မသိမြင်လျှင် အနှစ် သာရ မရှိချေ။

## ဒဿနိက ဆိုသည်မှာ

(၁) လူနေမှုဘဝကို တိုးတက်စေသော သဘောတရားများ၊

(၂) ကိုယ်ကျင့်တရား ကောင်းမွန် မြင့်မြတ်ရေးကို ဦးတည်သောမူဝါဒများ၊

(၃) ရှုပ်ထွေးသော (ပဟေဠိဆန်သော) ပြဿနာတို့ကို အဖြေရှာပေးနိုင်သောအချက်အလက်များ၊

(၄) စဉ်းစားဆင်ခြင်ဉာဏ်ကို မှန်ကန်ဖြောင့်မတ်စေနိုင်သော နီတိ ကျင့်ဝတ်များ၊

(၅) အသိဉာဏ်ကို ရင့်ကျက်စေသော နည်းလမ်းဥပဒေသများဟူသော အချက်အလက်တို့သည် တိုက်ရိုက်အားဖြင့်ဖြစ်စေ၊ သွယ်ဝိုက်သော နည်းအားဖြင့်ဖြစ်စေ ပါဝင်ဆက်စပ်နေရမည်။ ခြုံငုံ၍ ပြောရလျှင် လူ့ဘဝလူ့လောကတွင် ကောင်းကျိုးကို မြင့်တင်းပေးနိုင်သော အသိအမြင်တို့ကို ပေးစွမ်းနိုင်သည့် လောကအမြင်၊ အယူအဆ၊ သဘောတရား၊ ခံယူချက်များ ပါဝင်နေရပါမည်။ အတွေးအခေါ် ပညာရှင် (ဒဿနိကဗေဒပညာရှင်) ဆိုသည်မှာ ထိုအတွေးအမြင်မျိုးကို ပိုင်နိုင်ကျွမ်းကျင်၍ ဖေါ်ထုတ်တင်ပြတတ်သူတို့ ဖြစ်ကြသည်။ သို့သော် ခြွင်းချက်ကား ရှိပေလိမ့်မည်။ ယခင်ရှိနှင့်ပြီးသော ရှေးလူတို့ ဖေါ်ထုတ်တင်ပြထားပြီးဖြစ်သော အဟောင်းသဘောတရားများကို မှီတည်၍ အသစ်ထပ်မံဖြည့်စွက်နိုင်သည့် အနေအထား၌ ရှိရမည်ဟု ယူဆပါသည်။ ထိုမျှမက ခေတ်နှင့်လျော်ညီသော အတွေးအမြင်မျိုးလည်း ဖြစ်ရပါမည်။ အဟောင်းထဲက အဟောင်းများဖြစ်သော အတွေးအမြင်တို့ကိုသာ နားလည်သဘောပေါက်ရုံ၊ တတ်မြောက်ကျွမ်းကျင်ရုံဖြင့် အတွေးအခေါ်ပညာရှင် (ဒဿနိကဗေဒပညာရှင်)ဟု မသတ်မှတ်နိုင်ပါ။ လူ့ယဉ်ကျေးမှုများ ထွန်းကားမှုရှုထောင့်မှ ကြည့်လျှင် ဘာသာတရားကို သက်ဝင်ကြည်ညိုမှုမှ အကြောင်းပြု၍

ပေါ်ပေါက်လာသော လူ့လောက ကောင်းကျိုးဆောင် ပညာရပ်များလည်း ဖွံ့ဖြိုးကြွယ်ဝလာခဲ့သည်ကို ကမ္ဘာ့သမိုင်း ဖြစ်ရပ်များ၌ တွေ့ရပါသည်။ မျက်မှောက်ခေတ် စက်မှုသိပ္ပံ ကမ္ဘာကြီး တိုးတက်မှုအတွက် ကမ္ဘာသုံးနှစ် ၁၇ ရာစု၊ ၁၈ ရာစုနှစ်များအတွင်း အစီအရီ ပေါ်ထွန်းခဲ့သော ထိုပညာရပ်များသည် အခြေခံကောင်းများ ဖြစ်ခဲ့သည်ဟု ဆိုရပါမည်။

## ဒဿနိကဏ်၏ အကိုင်းအလက်များ . . .

ရှေးဦး ပညာရှင်တို့၏ အမြင်၌ **فلسفة** (ခေါ်) ဒဿနိကပညာ၏ အကိုင်းအလက် (၄)ခု ရှိပါသည်။

(၁) **علم المنطق** (ယုတ္တိဗေဒ)
(၂) **العالم الطبيعى** (သဘာဝ သိပ္ပံဗေဒ)
(၃) **العلم الإلٰهى** (ဖန်ဆင်းရှင် ရှိ မရှိ (သို့) ဖန်ဆင်းရှင်၏ ရုပ်ခန္ဓာ ရှိ မရှိ လေ့လာသောဘာသာရပ်)
(၄) **العلم الرياضى** (သင်္ချာသိပ္ပံဗေဒ)

**العلم الرياضى** ၏အကိုင်းအလက် (၄) ခုရှိပါသည်။

(၁) **علم الهندسة** (အင်ဂျင်နီယာဗေဒ)
(၂) **علم الحساب** (သင်္ချာဗေဒ)
(၃) **علم الموسيقى** (ဂီတဗေဒ)
(၄) **علم الهيئة** (နက္ခဗေဒ)
(၅) **العلم الأرثماطيقى** (ရှေးဟောင်းယဉ်ကျေးမှုကို လေ့လာသည့်ဘာသာရပ်)

## လေ့ကျင့်ခန်း(၁)

၁။ **منطق** (ယုတ္တိဗေဒ) ပညာရပ်ကို မည်သို့သဘောပေါက်သနည်း။ ဥပမာနှင့်တကွ ရှင်းပြပါ။

၂။ ယုတ္တိဗေဒ၏တာဝန်များနှင့်၎င်းကစိတ်ဝင်စားသည့်အချက်များကို ရေးပါ။

၃။ ဒဿနိက ဆိုသည်မှာ အဘယ်နည်း။ ၎င်း၏ အမျိုးအစားများကို ပြည့်စုံစွာ ဖော်ပြပါ။

## (၁) علم المنطق စတင်ဖြစ်ပေါ်လာပုံနှင့် ဦးစွာစတင်ပြုစုခဲ့သူ (ارسطو)

مــنــطــق ပညာရပ်အား ရောမဘုရင် အယ်လက်ဇန္ဒာ၏ အမိန့်ဖြင့် ဒဿနိကပညာရှင် ارسـطـوطـالـيـس (အရစ္စတိုတယ်)သည် يـونـا ن (ဂရိ) ဘာသာစကားဖြင့် စတင်ပြုစုခဲ့သည်။

ထို့ကြောင့် ၎င်း ارسـطـو ကို ဤပညာရပ်၏ الـمـعـلّـم الأول (ပထမဆုံးပြုစုခဲ့သူ) ဟုခေါ်သည်။ သူရေးသားပြုစုခဲ့သော အရာများသည် الأورغان-Organon ဟူ၍ ကျော်ကြားပါသည်။ ၎င်းကျမ်းစာများမှာ-

(١) كتاب المقولات
(٢) كتاب العبارة
(٣) كتاب التحليلات الأولى
(٤) كتاب التحليلات الثانية
(٥) كتاب الجدل
(٦) كتاب الفلسفة

ထို့ပြင် كـتــاب الـخـطــابة , كتـاب الشعـر တို့ကိုလည်း ပြုစုခဲ့ပါသည်။ ဂရိလူမျိုး အရစ္စတိုတယ် (aristotle) သည် ရှေးခေတ်ကမ္ဘာတွင် ကြီးကျယ်သော အတွေးခေါ်ပညာရှင်နှင့် သိပ္ပံပညာရှင်ဖြစ်သည်။ (formal logic) ရိုးရိုးယုတ္တိဗေဒဖြင့် ဒဿနိကဗေဒကို ရှုထောင့်ပေါင်းစုံမှ အသက်သွင်းသူအဖြစ် ကျော်ကြားခဲ့သည်။

ဒဿနိကဗေဒပညာရပ်၌ ကဝိတစ်ဆူဖြစ်သော ပလေတို(plato)၏ တပည့်လည်းဖြစ်သည်။ အရစ္စတိုတယ်သည် ပညာအသစ်အဆန်းကို တီထွင်ခဲ့သူ မဟုတ်ချေ။ ဉာဏ်အလွန်ထက်မြက်သူ ဖြစ်သောကြောင့် လက်လှမ်းမီရာ ပညာရပ်တို့ကို နက်နဲစွာ တွေးတောဆင်ခြင်၍ အချက်အလက်တို့ကို စေ့စပ်သေချာစွာ စုံစမ်းပြီးလျှင် တွေ့ရှိချက်တို့ကို စနစ်တကျ

စီစဉ်စုဆောင်းခဲ့သူ ဖြစ်ပေသည်။ စင်စစ်အားဖြင့် သူသည် ပညာကို လေ့လာရှာဖွေသူသာဖြစ်သည်ဟု ဆိုနိုင်သည်။ ထို့ကြောင့် အယ်ရစ္စတိုတယ်သည် ယခုခေတ် သိပ္ပံပညာရပ်နှင့် ဒဿနိကဗေဒပညာရပ်များအတွက် အခြေခံကို ချပေးခဲ့သူ ပုဂ္ဂိုလ်ကြီးဖြစ်ပေသည်။

ဟစ်ဂျရီဒုတိယရာစုနှစ်၌ လူတို့သည် သူရေးသားခဲ့သောစာအုပ်များကို အရဗီဘာသာရပ်သို့ ပြန်ဆိုကြသည်။ ဘာသာပြန်ဆိုသူများအနက် အကျော်ကြားဆုံးသူမှာ- **كتاب المقولات** ကို ပြန်ဆိုရေးသားခဲ့သူ **اسحاق بن حنين** သာဖြစ်ပါသည်။

## فرفريوس (၂)

**فرفريوس** သည် လဗ္ဗနွန်နိုင်ငံ၏ ဆင်ခြေဖုံးရှိ **صور** (ဆူရ်) မြို့၌ နေထိုင်သူ ဖြစ်သည်။ သူသည် **ايساغوجى** - Isagoge) ကျမ်းကို ယူနန်ဘာသာစကားဖြင့် ရေးသားပြုစုခဲ့သည်။ ထိုကျမ်းသည် အရစ္စတိုတယ်၏အဆိုများ နိဒါန်းအဖြစ် ရေးသားသုံးစွဲထားသောကျမ်းဖြစ်ပါသည်။

ထိုစာအုပ်ကို **أبوعثمان الدمشقى** သည် ခရစ်သက္ကရာဇ် (၉)ခု၌ အရဗီဘာသာသို့ ပြန်ဆိုရေးသားခဲ့ပြီးနောက်၊ ဆက်လက်၍ **أثير الدين المفضل بن عمر الأبهر** သည် ထိုစာအုပ်ကို အတိုချုံး ရေးသားခဲ့သည်။

## (၃) علم المنطق ပညာရပ်အား ဂရိစာပေမှ အရဗီဘာသာသို့ ပြန်ဆိုသူ (သို့မဟုတ်) المعلّم الثانى (الفارابى)

**منطق** ပညာသည် အစ္စလာမ့် ကမ္ဘာတွင် အရေးပါသောပညာရပ် တစ်ခု ဖြစ်ခဲ့သည်။

ရှေးယခင်ကပင် ရောမ၊ ခေါမ နိုင်ငံများမှ လူအများသည် الـمـنطق နှင့် الــــطــــب ပညာရပ်များအား فــــــارســــي စာပေသို့ ပြောင်းလဲ အသုံးပြုလာကြသည်။ عبـد الـلـه بن مقفع الفارسی သခင်သည် ၎င်းပညာရပ်များကို فــارسی စာပေမှ عــربــی စာပေသို့ ပြောင်းလဲ၍ အသုံးပြုခဲ့သည်။ ဟိဂျ်ရီ (၁၉၈) ခုဌ် هــارون رشيد ဘုရင်၏သားတော် مـأمـون ၏ ခေတ်သမယတွင်မူ ၎င်းပညာရပ်အားလုံးတို့သည် အရဗီစာပေသို့ ပြောင်းလဲပြန်ဆိုမှု ရှိခဲ့သော်လည်း သေချာကျနစွာ မဖြစ်သောကြောင့် ပြည့်စုံမှု မရှိခဲ့ပေ။

ထိုနောက် ဟိဂျ်ရီ (၃၃၉)ခုနှစ်၌ ح ز منصوربن ဘုရင်၏အမိန့်ဖြင့် حكيم أبـوالـنـصـرفـاربـی သခင်သည် ဒုတိယအကြိမ်မြောက် ပြည့်စုံစွာဖြင့် ထပ်မံ ရေးသားပြုစုခဲ့သည်။ အာရေဗျကျွန်းစွယ်ရှိ ဒဿနိကပညာရှင်များအနက် منطق ပညာရပ်ကို ရေးသားပြုစုခဲ့သူများတွင် حكيم أبوالنصر فارابی သည် အကျော်ကြားဆုံးဖြစ်သောကြောင့် ၎င်းအား مُــعَــلِّــمٌ ثَــانٍ ဟုခေါ်သည်။ ၎င်း حـكـيـم أبـوالـنـصر فـاربی သခင်ပြုစုခဲ့သော စာအုပ်များအား مـنـصـور ဘုရင်၏ စာကြည့်တိုက်တွင် စုဆောင်းထားရှိခဲ့လေသည်။

الإمـــام الــفـــارابـــی ရေးသားပြုစုခဲ့သော ဒဿနိကဗေဒဆိုင်ရာကျမ်းများမှာ---

(١) كتاب (( الأخلاق إلى نيقوماخوس))
(٢) كتاب (( العلم الطبيعی))
(٣) كتاب (( الآثار العلوية))
(٤) رسالة (( النفس والعالم))

စသည်တို့ဖြစ်ကြသည်။ သူသည် الـمـعـلـم الأول (أرســطـو) ၏

စာအုပ်များကို အကျယ်ဖွင့်ဆို ရေးသားခြင်းနှင့်အတူ **منطق** ပညာရပ်ကို ဂရိဘာသာစကားမှ အရဗီဘာသာစကားသို့ ပြန်ဆိုရေးသားခဲ့သောကြောင့် ၎င်းကို **المعلم الثانى** ဟု ခေါ်ပါသည်။

## جالينوس (ت سنة ١٦٠م) (၄)

**الشكل الثالث** ၏ **منطق** သည် **منطق** ပညာရပ်တွင် **جالينوس** နောက်တွင် **الشكل الرابع** ကိုပါ ချဲ့ထွင်ခဲ့သည်။

## (၅) المنطق ပညာရပ်အား တတိယမြောက် ထပ်မံပြုစု
## မွမ်းမံသူ (သို့) المعلّم الثالث
## (أبو علـى سينا)

**حكيم ابو النصرفارابي** သခင်၏ကျမ်းစာအုပ်များ မီးလောင်တိုက် သွင်းခြင်းခံရပြီးနောက်တွင် **سلطان مسعود** ဘုရင်၏ အမိန့်ဖြင့် **عباسي** ခလီဖွာများ **شيخ أبو علي حسين عبد بن سينا** သခင်သည် လက်ထက်တွင် **منطق** ပညာရပ်ကို **حكيم ابو النصرفارابي** ပြုစုခဲ့သည့် လမ်းစဉ်အတိုင်း စုစည်း၍ ပြန်လည်ရေးသားပြုစုခဲ့သည်။ ထို့ကြောင့် သခင်ကြီးအား **المعلم الثالث** ဟုခေါ်သည်။ သခင်ကြီး၏ ကျော်ကြားသော အမည်မှာ **شيخ أبو علي بن سينا** ဖြစ်ပါသည်။

## أبو حامد الغزالى (၆)
## (ت سنة ٥٠٥ هـ, ١١١١م)

**أبو حامد الغزالى** သည် မွတ်စ်လင်မ်တို့ လေ့လာဆည်းပူးကြရသော ပညာရပ်များတွင် **منطق** ပညာရပ်ကို ရောနှောလိုက်ပါသည်။

နောက်ဆုံး ဤပညာသည် ကုရ်အာန်နှင့်ဟဒီးစ်တော်များမှ အမိန့်များ ထုတ်နှုတ်တင်ပြရာတွင် လိုအပ်သည့် နိဒါန်းများတွင် ထည့်သွင်းရေတွက် ခြင်းခံရသည်။

အေမာမ်ဂဇါလီသခင်ကြီးသည် အစ္စလာမ့်အတွေးအခေါ်ပညာရှင်၊ ဒဿနပညာရှင်၊ စိတ်ပညာရှင်နှင့် ဝိညာဏပညာရှင် ဖြစ်သည်။ အစ္စလာမ့် သိပ္ပံ၊ အစ္စလာမ့်ဒဿန၊ အစ္စလာမ့်စိတ္တဗေဒ၊ အစ္စလာမ့်ယုံကြည်မှုနှင့် နာမ်ပိုင်းဆိုင်ရာ ပြုပြင်ရေးဆိုင်ရာပညာရပ် စသည့်ပညာရပ်အသီးသီးတို့၌ မှီငြမ်းကျမ်းပေါင်း (၇၀)ကျော် ရေးသားပြုစုခဲ့သည်။

အေမာမ် ဂဇါလီသခင်ကြီး၏ ခေတ်ကာလ၌ ဒဿနိကဗေဒ (သို့မဟုတ်) သဘာဝတ္ထဗေဒ အတွေးအခေါ်များ၏ လွှမ်းမိုးမှုကြောင့် အစ္စလာမ့်တရားတော်မြတ်အပေါ် သံသယပွားခြင်း၊ ကိုယ်ကျင့်တရား ပျက်ပြားခြင်းများ၊ လူ့အဖွဲ့အစည်းအတွင်း အမှုအကျင့် ပျက်ပြားခြင်းများ၊ နိုင်ငံရေးမတည်ငြိမ်မှုများ ဖြစ်ပေါ်ခဲ့ပါသည်။

ဆရာကြီးသည် الإلٰهيات၊ (ဖန်ဆင်းရှင်နှင့်ပတ်သက်၍ တွေးခေါ် ရာတွင်) မှားယွင်းချွတ်ချော်နေသည့် အတွေးအခေါ်ပညာရှင်တို့၏ လှေနံ ဓါးထစ်ဆရာစဉ် လက်ခံမှုအယူဝါဒများကို ပယ်ချနိုင်ခဲ့သည်။ ဒဿနိက ပညာရှင်တို့၏ ဆရာစဉ်ဝါဒကို အပြတ်ချေမှုန်းရန် تهافت الفلاسفة အမည်ဖြင့် ကျမ်းတစ်စောင်ပြုစုရေးသားခဲ့ပါသည်။ ထိုစာအုပ်သည် အရစ္စတိုတယ်နှင့် ပလေတိုတို့၏ အယူအဆများအား အရှိန်အဟုန်ဖြင့် ပြင်းထုတ်ပစ်သော အစ္စလာမ့် ဒဿန အထိမ်းအမှတ် စာအုပ်ဖြစ်၍ ရှေးဂရိ ဉာဏ်ပညာရှင်များ လွှမ်းမိုးသည့် (၈)ရာစုမှ (၁၁)ရာစုထိ ပေါ်ပေါက်ခဲ့သော အစ္စလာမ့်ယုံကြည်ချက်များ အား ညစ်ညမ်းစေရန် သုံးစွဲခဲ့သောဗျူဟာများ၊ အိုင်ဒီယာများနှင့် မယုံကြည်သူတို့၏ ကြိုးစားလှုပ်ရှားမှုများအား ချေမှုန်း နိုင်ခဲ့သည်။ ဆရာကြီးသည် ထိုပညာရပ်များကို အစ္စလာမ့် အတွေးခေါ်နှင့်

အညီ ပြုပြင်ပြောင်းလဲနိုင်ခဲ့သူ ဖြစ်ပါသည်။ ထို့ကြောင့် မွတ်စ်လင်မ်တို့အား အစ္စလာမ့်အလှဆင်ထားသည့် ဒဿနိကဆိုင်ရာ ပညာရပ်များနှင့် ပထမဆုံး မိတ်ဆက်ပေးခဲ့သူ ဖြစ်ပါသည်။

ထိုစာအုပ်သည် ဉာဏ်စဉ် မူလဇစ်မြစ်ကြောင့် အကြောင်းအကျိုး ဖြစ်ရသည်ဟူသည် သီအိုရီအား ခုခံကာကွယ်မှုတွင် ကျော်ကြားသော စာအုပ်ဖြစ်သည်။ သူ၏ထောက်ပြချက်မှာ (ပရမတ်) الله အား ထင်ရာစိုင်း လုပ်နေသော တန်ခိုးရှင်ဆိုသည်ထက် သမ္မာသမတ်ကျစွာ ကျိုးကြောင်း အခြေခံဇစ်မြစ်အား ပြဌာန်းနေသည့်အရှင်ဟု အမြဲတွေ့ရပြီး ထိုအရှင်၏ ကိုယ်ပိုင်ပြဌာန်းမှုသည် တချိန်တည်းဆက်စပ်မှုဖြင့် ပုံမှန်ဖြစ်နေသော အကြောင်းအရင်းတော်ဖြစ်သည်။ ကျွန်ုပ်တို့က သဘာဝ နိယာမဟု ဖေါ်ပြ သော အခြေခံအကြောင်းပြချက်များသည်ပင် သဘာဝ နိယာမ မဟုတ် ကြောင်း အရှင်၏ကိုယ်ပိုင်ပြဌာန်းမှုဖြင့် ရွေးချယ် ထိန်းကွပ်ပေးခြင်း ဖြစ်သည်။ တနည်းအားဖြင့် သဟဇာတတည့်စွာ အခြေခံကျသော အလိုတော်ဖြစ်သည်ဟူ၏။ အေမာမ် ဂဇာလီသခင်ကြီး၏ ကျော်ကြားသော ကြေငြာချက်မှာ- မီးနှင့်ဝါဂွမ်း အတူထားသည့်အခါ ဝါဂွမ်းအား မီးလောင် ရခြင်းမှာ မီးနှင့်သက်ဆိုင်သည်ဟူခြင်းထက် الله နှင့်သာ တိုက်ရိုက်ပို၍ သက်ဆိုင်သည်ဟူသော အချက်ပင်ဖြစ်သည်။ ထိုကြေငြာချက်အား အတည် ပြုရန် منطق (ခေါ်) ယုတ္တိဗေဒအား အသုံးပြုခဲ့သည်။

## လေ့ကျင့်ခန်း(၂)

၁။ **المنطق** ပညာရပ်ကို စတင်ပြီး ပုံဖော်ပြုစုသူအကြောင်းကို ရေးပါ။

၂။ **المنطق** ပညာရပ်၏ **معلم** များ၏ အမည်များကို ရေးပါ။

၃။ **الفارابي** ကို **المعلم الثاني** ဟု အဘယ့်ကြောင့် ခေါ်ရသနည်း။ ၎င်းရေးသား ခဲ့သော စာအုပ်များကို ဖော်ပြပါ။

၄။ **أبوعلي سينا** ဆိုသည်မှာ မည်သူနည်း။

၅။ မွတ်စ်လင်မ်များကို **منطق** ပညာရပ်သည် လေ့လာဆည်းပူးရန် ထိုက်သက်သောပညာဖြစ်ကြောင်း မည်သူက ပြသခဲ့သနည်း။ ၎င်း၏ အကြောင်းကို တစေ့တစောင်း ရေးပါ။

## **منطق** ပညာရပ်သည် အခြားပညာရပ်များအတွက် အထောက်အကူ ဖြစ်ပါသလား

လူတို့သည် နေ့စဉ်နှင့်အမျှ ဆင်ခြင်စဉ်းစား ကြံဆနေရသော သတ္တဝါ ဖြစ်သည်။ ထို့သို့ ဆင်ခြင်စဉ်းစားရာ၌ မိမိပြုနေသောဆင်ခြေများ မှန်သည်၊ မမှန်သည်၊ ယုတ္တိရှိသည်၊ ယုတ္တိမရှိသည်ကို ကိုယ်တိုင် စိစစ်ဝေဖန်ပိုင်းခြား ဆုံးဖြတ်တတ်ပါက အကျိုးရှိမည်ဖြစ်သည်။ ဆင်ခြင်ကြံဆမှုမရှိဘဲ မည်သည့် ပညာကိုမျှ မတည်ဆောက်နိုင်ပေ။ လူသားများ မလွဲမသွေ အသုံးပြုနေ ရသောဆင်ခြင်မှုများ တိကျခိုင်မာစေရန်အတွက် ယုတ္တိဗေဒ၏လမ်းညွှန်မှု လိုအပ်ပါသည်။ ဤသို့ဆိုခြင်းသည် ယုတ္တိဗေဒကို အကြောင်းမဲ့ အမွှမ်းတင် လိုက်ခြင်း မဟုတ်ပါ။ ယုတ္တိဗေဒသည် ပညာတကာတို့၏ဘုရင် သခင်ဖြစ် သည်ဟု မဆိုလိုပေ။ ယုတ္တိဗေဒကိုသိမှသာ ဆင်ခြင်နိုင်မည်ဟူ၍လည်း မဆိုလိုပါ။ ထိုပညာကို မသိဘဲလည်း ဆင်ခြင်နိုင်သည်။ ဆင်ခြင်နေကြ သည်။ ၎င်းကို မသိငြားလည်း ယုတ္တိရှိစွာ ဆင်ခြင်ကြံဆကာတည်ဆောက် လာကြသောပညာရပ်များ ရှိနေသည်ကိုလည်း မငြင်းလိုပေ။ သို့သော် မိမိ၏ ဆင်ခြင်မှုသည် ယုတ္တိရှိသည် မရှိသည်ကိုလည်းကောင်း၊ အဘယ်ကြောင့် ယုတ္တိရှိသည်၊ မရှိသည်ကိုလည်းကောင်း စနစ်တကျသိလိုလျှင် ယုတ္တိဗေဒကို လေ့လာရမည်ဟု ဆိုလိုခြင်းသာဖြစ်သည်။

## منطق ပညာရပ်အပေါ် သာသနာ့ပညာရှင်တို့ ထားရှိသည့်အမြင်

ဤပညာရပ်ကို သင်ရန်လိုအပ်သည်ဟု ထင်မြင်သော ပညာရှင်တို့သည် ဤပညာတွင် အကျိုးနှစ်ရပ်ရှိသည်ဟု ဖေါ်ပြကြပါသည်။

၎င်းတို့မှာ (၁) ကနဦးသာသနာ့ပညာရှင်တို့၏ကျမ်းများကို နားလည်ရန် အထောက်အကူဖြစ်ခြင်း၊ (၂) စဉ်းစားဆင်ခြင်နိုင်စွမ်းကို ပိုမိုတိုးတက်စေခြင်းတို့ ဖြစ်ပါသည်။

ကနဦးသာသနာ့ပညာရှင်တို့၏ ယုတ္တိဗေဒအသုံးအနှုံးများပါဝင်သော ကျမ်းများကို နားလည်ရန် အမှန်တကယ် အထောက်အကူဖြစ်ပါသည်။ ယုတ္တိဗေဒအသုံးအနှုံးများ ပါဝင်သောကျမ်းများမှာ နှစ်မျိုးနှစ်စားရှိပါသည်။

တစ်မျိုးမှာ အစားထိုးကျမ်းများမရှိသဖြင့် ပယ်မရလောက်အောင် အရေးပါသော ကျမ်းများဖြစ်ပြီး၊ နောက်တစ်မျိုးမှာ အစားထိုးကျမ်းများရှိသောကြောင့် ထိုကျမ်းများကို မလေ့လာလျှင်လည်း ပညာရပ်များကို နက်နဲစွာ နားလည်သဘောပေါက်နိုင်ပါသည်။

ဥပမာအနေဖြင့် بـــلاغة ပညာရပ်တွင် ယုတ္တိဗေဒအသုံးအနှုံးများမှ ကင်းလွတ်သော ကျမ်းများရှိပါသည်။ ရှေးကျမ်းများတွင်လည်း الشيـخ عبد القـاهر الجرجانی သခင်ကြီး ရေးသားပြုစုခဲ့သော (၁) دلائـل الإعجاز နှင့် (၂) أسرار البلاغة တို့ရှိပါသည်။ သို့သော် أصـول الفقه ပညာရပ်ကို ပညာရှင်တို့က ယုတ္တိဗေဒအသုံးအနှုံးများမှ ကင်းလွတ်စေရန် ကြိုးပမ်းအားထုတ်မှုများ ပြုခဲ့ကြပါသည်။ အထူးသဖြင့် إمـام أحـمد فهمی أبو سنّه (الـــمــصـــری) နှင့် တပည့်တပမ်းများဘက်မှ ကြိုးပမ်းမှုများသည် အသိအမှတ်ပြုလောက်ပါသည်။ သို့သော်ငြားလည်း ဤပညာရပ်ကို စတင်မျိုးစေ့ချခဲ့စဉ်ကတည်းက ယုတ္တိဗေဒသည် ၎င်းပညာ၏အသက်သွေးကြောများတွင် ပါဝင်ခဲ့သောကြောင့် ဉုတ်သုံကင်းလွတ်ရန် မလွယ်ကူသေးပေ။

အစားထိုးကျမ်းများမရှိသဖြင့် ပယ်မရလောက်အောင် အရေးပါသော ကျမ်းများတွင် အခြေအတင် ဘာသာရေးစကားစစ်ထိုးခြင်းဆိုင်ရာ ကျမ်းများ ပါဝင်ပါသည်။ ဥပမာအနေဖြင့် (رحمة الله عليه) إمام غزالى ရေးသားခဲ့သော ကျမ်းအချို့နှင့် (رحمة الله عليه) شاه ولى الله الدهلوى သခင်ကြီး ရေးသားခဲ့သော ကျမ်းအချို့သည် ယုတ္တိဗေဒအသုံးအနှုန်းများဖြင့် ရေးသားထားသောကြောင့် ထိုကျမ်းများကို နားလည်သဘောပေါက်ရန်နှင့် ကျွန်ုပ်တို့၏ရှေ့ဆောင်ဆရာကြီးများသည် သာသနာ့ပညာရပ်များကို အဘယ်နည်း အဘယ်ပုံဖြင့် ရှင်းလင်းတင်ပြခဲ့သည်ကို နားလည်သဘော ပေါက်ရန် ယုတ္တိဗေဒအသုံးအနှုန်းများကို လေ့လာထားရန် လိုအပ်ပါသည်။

အကျိုးနှစ်ရပ်အနက်မှ အထက်တွင်တင်ပြခဲ့သော စဉ်းစားဆင်ခြင်နိုင်စွမ်းကို ပိုမိုတိုးတက်စေခြင်းဟူသည် ယုတ္တိဗေဒဆိုင်ရာကျမ်းများကို လေ့လာရန်၊ နားလည်သဘောပေါက်ရန်၊ ဖြစ်တန်သောပုံစံများကို ထုတ်ဖော်ခြင်းနှင့် ၎င်းတို့၏အဖြေများကို ကြိုတင်စဉ်းစားရန် အထောက်အကူ ဖြစ်စေပါသည်။

ဥပမာအနေဖြင့် စစ်တုရင်ကစားခြင်းသည် ဉာဏ်ထက်မြက်စေသည် ဟူသော အဆိုကဲ့သို့ပင်ဖြစ်သည်။ မှန်တော့မှန်ပါသည်။ သို့သော် စစ်တုရင် ကစားသည့်အခါ၌ပင် ဉာဏ်ထက်စေပါသည်။ ဘဝ၏ကဏ္ဍတိုင်းတွင် စစ်တုရင်ကစားတတ်ခြင်းသည် အထောက်အကူမဖြစ်ပါ။

မည်သို့ပင်ဖြစ်စေ أصول الفقه ، علم الكلام နှင့် تفسير စသည့် ပညာရပ်တို့၌ ကနဦး/ လွန်လေပြီးသော သာသနာ့ပညာရှင်ကြီး များရေးသားထားသော အချို့ကျမ်းများသည် منطق ၏ အသုံးအနှုန်းများဖြင့် ရေးသားထားသောကြောင့် منطق ၏ အကျိုးကို ငြင်း၍မရပါ။ ထိုပညာရှင် ကြီးများ၏ ဝေါဟာရအသုံးအနှုန်းများကို နားလည်ရန်နှင့် ၎င်းတို့၏ပညာ အမွေအနှစ်များကို ဆက်ခံရန် منطق ၏ ဝေါဟာရများကို သိထားရမည် ဖြစ်သည်။

**مـــنـــطـــق** ၏အသုံးအနှုန်းများကို နားလည်ရန် ယုတ္တိဗေဒဆိုင်ရာ အဓိပ္ပါယ်ဖွင့်ဆိုချက်များကို ကျက်မှတ်ရုံသက်သက်ဖြင့် မလုံလောက်သဖြင့် သာသနာ့ပညာရပ်များအတွက် သင်ရိုးညွှန်းတမ်း ရေးဆွဲသည့်အခါ ယုတ္တိဗေဒ စာအုပ်များကိုလည်း ထည့်သွင်းရေးဆွဲကြပါသည်။

## **منطق** ပညာ၏ အခြေခံသုတများ

### (၁) **منطق** ပညာ၏ ဘာသာစကားဆိုင်ရာ အဓိပ္ပါယ်

**مـنـطق** ၏ဘာသာစကားဆိုင်ရာ အဓိပ္ပါယ်ကို ရှုထောင့်(၂)ခုမှ သိရှိနိုင်ပါသည်။

(၁) **لفظ المنطق** အား **مصدر ميمي** အဖြစ် သတ်မှတ်သုံးစွဲပါက ၎င်း၏ အဓိပ္ပါယ်မှာ **نطق** (ပြောဆိုခြင်း) ဟူ၍ အဓိပ္ပါယ်ရပါသည်။

(၂) **لفظ المنطق** အား **اسم ظرف** ဖြစ် သတ်မှတ်သုံးစွဲပါက (**محل الكلام**) စကား၏နေရာဟူ၍ အဓိပ္ပါယ်ရပါသည်။

## **منطق** ဟု အဘယ်ကြောင့် မှည့်ခေါ်ရပါသနည်း

အမှန်မှာ **مـنـطـق** ဟူသော စာလုံးသည် **نـطـق يـنـطـق نـطـقـا** မှ ဖြစ်သောကြောင့် နှုတ်နှင့်သာသက်ဆိုင်ပါသည်။ တနည်းအားဖြင့် နှုတ်မှ ထွက်ပေါ်လာသော စကားများနှင့်သာ သက်ဆိုင်ပါသည်။ သို့သော် **مـنـطق** (ဝါ) ယုတ္တိဗေဒသည် ယုတ္တိရှိရှိ တွေးတောနိုင်ရေးအတွက် ပံ့ပိုးပေးသော ပညာရပ်ဖြစ်သည်။ ယုတ္တိရှိရှိ တွေးတောနိုင်သူသည်သာ ယုတ္တိရှိရှိ ပြောဆိုနိုင်မည်ဖြစ်သည်။ တနည်းအားဖြင့် ဤပညာရပ်သည် နှုတ်မှ ထွက်သော စကားများကို ယုတ္တိတန်စေရန်နှင့် တိကျခိုင်မာစေရန် ပံ့ပိုးပေးသောပညာရပ်ဖြစ်သောကြောင့် **منطق** ဟု မှည့်ခေါ်ရခြင်းဖြစ်သည်။

## منطق ၏ ပညာရပ်ဆိုင်ရာ ဝေါဟာရ အဓိပ္ပါယ်

(၁) منطق ပညာဟူသည် အတွေ့အကြုံ လောကမှ စုံစမ်းသိရှိလာသော (ဥဒါဟရဏ်) အချက်အလက်များကို နိဒါန်းအဖြစ်ထား၍ ခြုံယူဆင်ခြင်ပြီး မိမိမသိသေးသည့် အချက်အလက်များပါဝင်သော နိဂုံးဆီသို့ အမှားအယွင်း ကင်းစွာ ရောက်ရှိသွားရန် အထောက်အကူပြုသည့် ပညာရပ်ဖြစ်ပါသည်။

(၂) ဤနည်းအတိုင်း منطق ပညာဟူသည် လူတို့၏ဆင်ခြင်မှု မှန်သည်၊ မမှန်သည်၊ ယုတ္တိရှိသည်၊ မရှိသည်ကို ခွဲခြားနိုင်ရန်အတွက် လိုအပ်သည့် စည်းမျဉ်းဥပဒေများ၊ အခြေခံသဘောတရားများကို လေ့လာစိစစ်သော ပညာရပ်ဖြစ်သည်။ ထို့ကြောင့် တဆက်တည်းမှာပင် منطق သည် ယုတ္တိရှိစွာ ဆင်ခြင်မှု ပြုရေးအတွက် အထောက်အကူဖြစ်စေမည့် နည်းနာများ၊ စည်းကမ်းများကို ချမှတ်ပေးသော၊ လမ်းညွှန်ပေးသော ပညာရပ်တစ်ခု ဖြစ်ပါသည်။

## منطق ပညာ၏ အကျိုးနှင့်ရလဒ်

منطق ပညာရပ်၏ အလေးထားသည့် မျှော်မှန်းချက်မှာ မှန်ကန်စွာ ဆင်ခြင်နိုင်စွမ်းရှိရေးပင်ဖြစ်သည်။ သို့ဖြစ်၍ မှားယွင်းစွာဆင်ခြင်တတ်သော လူသားတို့ လိုက်နာနိုင်ရန်စည်းမျဉ်းများ၊ စံနှုန်းများ ချမှတ်ပေး၏။ ထုတ်ယူဆင်ခြင်သည့်အခါ ၎င်းဥပဒေများအား ထောက်ရှု၍ ဆင်ခြင်ပါက မှားယွင်း ချွတ်ချော်မှုများ နည်းပါးသွားနိုင်ပါသည်။

စဉ်းစားခြင်း၊ ဆင်ခြင်ခြင်းတို့သည် ပညာရပ်အားလုံးနှင့် ဆက်နွယ်နေသောကြောင့် منطق ပညာသည် အခြားပညာရပ်များကို အထောက်အကူ ပြုသောပညာရပ် ဖြစ်သည်။

## منطق ပညာ၏ အထူးလေ့လာရာနယ်ပယ် (သို့) လေ့လာသည့် အကြောင်းအရာ

ဘာသာရပ်တစ်ခုကို နားလည်သဘောပေါက်လိုလျှင် ထိုဘာသာရပ်၏လေ့လာမှုနယ်ပယ်ကို သိရှိရန် လိုအပ်ပေသည်။ ထို့အတူ ၎င်းနယ်ပယ်အတွင်းရှိ လေ့လာသောအကြောင်းအရာ၏ သဘောသဘာဝကိုလည်း သိရှိရန် လိုအပ်ပေသည်။ منطق ပညာ၌ လေ့လာရသည့် အကြောင်းအရာများမှာ အောက်ပါတို့ဖြစ်ကြသည်။

(၁) အာရုံငါးပါး၏ အထိအတွေ့ဖြင့် သိရှိထားသော အရာဝတ္ထုများနှင့် ထိုအရာဝတ္ထုများတို့၏ အဖြစ်အပျက် အချင်းအရာတို့ဖြစ်သည်။ တနည်းအားဖြင့် မိမိလေ့လာသိထားပြီးဖြစ်သော ပုဒ်နှင့်အဆိုများဟူ၍လည်း ပြောနိုင်ပါသည်။ ၎င်းတို့အား အရဗီဘာသာဖြင့် التصورات المعلومة နှင့် التصديقات المعلومة ဟုခေါ်ပါသည်။

(၂) မိမိ မလေ့လာသေးသော၊ မသိသေးသောပုဒ်နှင့် အဆိုတို့ဖြစ်ပါသည်။ ၎င်းတို့ကို အရဗီဘာသာဖြင့် التصورات المجهولة နှင့် التصديقات المجهولة ဟုခေါ်ပါသည်။ အမှတ်(၁)တွင် ဖော်ပြခဲ့သော အတွေ့အကြုံအဟောင်းများကို အခြေခံ၍ မိမိမသိသေးသော အရာဝတ္ထုများနှင့် ၎င်းတို့၏ အဖြစ်အပျက် အချင်းအရာတို့အား သိနိုင်ပါသည်။

(၃) ပုဒ်များကို တစ်ခုနှင့်တစ်ခု ကွဲပြားခြားနားစွာ ထင်လင်း မြင်သာစေရန် အသုံးပြုရသော အဓိပ္ပာယ်သတ်မှတ်ချက်များနှင့်၊ အဆိုများကို တစ်ခုနှင့်တစ်ခု ကွဲပြားခြားနားစွာထင်လင်းမြင်သာစေရန် အသုံးပြုရသော အဓိပ္ပာယ်သတ်မှတ်ချက်များ ဖြစ်ပါသည်။ ပထမအမျိုးအစားကို အရဗီဘာသာဖြင့် مُعَرِّفٌ ဟုခေါ်ပြီး၊ ဒုတိယအမျိုးအစားကို حُجَّةٌ ဟုခေါ်ဆိုရပါသည်။

(၄) ယုတ္တိဗေဒတွင် လေ့လာသော အကြောင်းအရာသည် ဆင်ခြေအမျိုးမျိုး ဖြစ်သည်ဟု တနည်းအားဖြင့် ဆိုနိုင်သည်။

## منطق ပညာရပ်၏ အရေးကြီးလိုအပ်ပုံ

အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား သတ္တဝါများအနက် အသိဉာဏ်အရှိဆုံး အသိဉာဏ်ကိုအသုံးချတတ်ဆုံး သတ္တဝါအဖြစ် ဖန်ဆင်းထားပါသည်။ ထို့ကြောင့် လူသားသည် အခြားသော သက်ရှိသတ္တဝါများနှင့် နှိုင်းစာလျှင် စဉ်းစားဆင်ခြင် တွေးခေါ်တတ်သည့် စွမ်းအင် အထက်မြက်ဆုံးသတ္တဝါဖြစ်သည်။ လောကအတွင်း မှီတင်းနေထိုင်သော သတ္တဝါအားလုံးတို့သည် ရုပ်သဘာဝ ပတ်ဝန်းကျင်နှင့် ထိတွေ့ရ၏။ မိမိတွင်ရှိသော အာရုံခံစားနိုင်မှု စွမ်းအင်နှင့်အညီ သဘာဝအတွင်း၌ တည်ရှိဖြစ်ပျက်နေသော အဖြစ်အပျက်အခြင်းအရာများ ရုပ်ဝတ္တုပစ္စည်းများ၏ အကြောင်းကို အခြေခံအားဖြင့် သိရှိကြ၏။ လူသားသည် အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားသော အာရုံငါးပါး (၀၊) (မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ဦးနှောက်၊ ကိုယ်ကာယအစိတ်အပိုင်းများမှတဆင့် မိမိနေထိုင်သော ပတ်ဝန်းကျင်လောက၏ အခြင်းအရာ အဖြစ်အပျက်များကို စတင်သိရှိလာပါသည်။ ဤသို့ သိရှိရာ၌ သာမန်သိရှိခြင်းနှင့် အဖြစ်အပျက်အချင်းအရာများပါဝင်သော သိရှိခြင်းဟူ၍ သိခြင်း နှစ်မျိုးနှစ်စားရှိပါသည်။ ပထမအသိမျိုးကို အရဗီ ဘာသာဖြင့် تصور ဟုခေါ်ပြီး၊ ဒုတိယအသိမျိုးကို تصديق ဟု ခေါ်ရ ပေမည်။ မြန်မာမှုပြုရာတွင် ပုဒ်နှင့်အဆိုဟု ပြုနိုင်ပါသည်။

ဤအသိနှစ်မျိုးလုံးသည် တခါတရံ စေ့စေ့စပ်စပ် ရှာဖွေစူးစမ်း၍ တိုးချဲ့ဆင်ခြင်ရန်နှင့် အများသဘောကို ဆောင်သော ယေဘုယျနိဂုံးကို ဖေါ်ထုတ်ရန် လိုအပ်သလို တခါတရံမလိုအပ်ပေ။ ရှာဖွေစူးစမ်း၍သာ သိနိုင်သော ပထမအသိမျိုးကို نظری ဟုခေါ်ပြီး၊ ဒုတိယအသိမျိုးကို بدیهی ဟုခေါ်ရပါသည်။ မြန်မာမှုပြုရာတွင် ဆင်ခြင်သိနှင့် အာရုံသိဟု ပြုရပါသည်။

အတွေ့အကြုံအာရုံအသိဖြင့် သိထားသော အာရုံသိကို အခြေခံ၍ မိမိ မသိသေးသော အရာဝတ္ထုတို့၏ အဖြစ်အပျက်နှင့်အချင်းအရာတို့ကို စူးစမ်းခြင်းကို ထုတ်ယူဆင်ခြင်ခြင်းဟုခေါ်သည်။

ထိုသို့ ထုတ်ယူဆင်ခြင်ရာ၌ လူသားများသည် လူသားဖြစ်သည့် အလျောက် လွဲမှားတတ်ကြသည်။ ထိုလွဲမှားမှုများမှ (ဖြစ်နိုင်သည့် နည်းဖြင့်) ကင်းလွတ်နိုင်ရန် တွေးခေါ် ဆင်ခြင်မှုဆိုင်ရာ စည်းမျဉ်းများပါဝင်သော လမ်းပြဉပဒေတစ်ရပ်ကို လိုအပ်ပါသည်။ ထိုစည်းမျဉ်းများနှင့်အညီ တွေးခေါ်ဆင်ခြင်မှုပြုပါက လွဲမှားမှု နည်းပါး သွားမည် ဖြစ်သည်။ ၎င်း စည်းမျဉ်းဥပဒေများ ပါဝင်သော ပညာရပ်ကို **منطق** (ယုတ္တိဗေဒ) ဟုခေါ်သည်။

ကျွန်ုပ်တို့သည် မိမိတို့၏ ယုံကြည်မှု ၊ ပြုမူနေထိုင်ခြင်း၊ ခံစားချက်တို့ အပေါ်တွင် ယုတ္တိကျကျတွေးခေါ်မှုပြုတတ်လျှင် အမှားနည်းအောင် ပြုနိုင် မည်ဖြစ်သည်။

## လေ့ကျင့်ခန်း (၃)

၁။ منطق ပညာရပ်သည် အခြားသော ပညာရပ်များကို မည်သို့ အထောက်အကူပေးသနည်း။

၂။ منطق ကို အဘယ်ကြောင့် منطق ဟု မှည့်ခေါ်ရပါသနည်း။ ၎င်း၏ ဘာသာစကားဆိုင်ရာ အဓိပ္ပါယ်နှင့် ဝေါဟာရအဓိပ္ပါယ် ကို ရေးပါ။

၃။ منطق ပညာသင်ယူခြင်းဖြင့် မည်သို့သော အကျိုးရလဒ်များ ရရှိ မည်နည်း။

၄။ منطق ပညာ၏ အဓိကလေ့လာမည့် အချက်များကို ဖော်ပြပါ။

၅။ منطق ပညာရပ်၏ အရေးကြီးလိုအပ်ပုံကို ရေးပါ။

## علم (အသိ)

**عـلـم الـمـنـطـق** ၌ အရာဝတ္ထုတို့၏ ပုံပန်းသဏ္ဍာန်နှင့် အချက်အလက်များသည် အာရုံထဲရောက်ရှိခြင်းကို **علم** ဟုခေါ်ပါသည်။

## علم (၂) မျိုး ရှိပါသည်။

(၁) تصور (ပုဒ်) (၂) تصديق (အဆို)

(၁) تـــصـــور (ပုဒ်) ဆိုသည်မှာ အဖြစ်အပျက်မပါဘဲ အရာဝတ္ထုတစ်ခုခုအားသိသော သာမန်သိခြင်းမျိုးကို ခေါ်ဆိုပါသည်။

ဥပမာ။ လူသား၊ အပင်၊ ကောင်းကင်၊ ကမ္ဘာမြေကြီး စသည်တို့အားသိခြင်း။ (ဤအသိမျိုးတွင် ဖြူသည်၊ မဲသည်၊ စိမ်းလန်းစိုပြေနေသည် စသဖြင့် ဝါစက်ပုဒ်များ မပါပါ။)

(၂) تـصـديق (အဆို) ဆိုသည်မှာ အရာဝတ္ထုများနှင့်အတူ အဖြစ်အပျက်အခြင်းအရာများကို ပူးတွဲသိရှိခြင်းကို ခေါ်သည်။

ဆိုလိုသည်မှာ ၎င်းတို့၏ဖြစ်ခြင်း၊ ပျက်ခြင်း၊ တည်တံ့ခြင်း၊ မတည်မြဲခြင်း စသည့် ဝါစက်ပုဒ်များကိုပါ သိသော သိခြင်းမျိုးကို ခေါ်ပါသည်။

ဥပမာ။ ။ လူသားများသည် အရောင်အဆင်းအမျိုးမျိုးရှိကြသည်။
အပင်များသည် စိမ်းလန်းစိုပြေနေသည်။

စသဖြင့် အဖြစ်အပျက်များကိုပါ ပူးတွဲသိသော အသိမျိုးကို ခေါ်ပါသည်။

## تَصَوُّرٌ နှင့် تَصْدِيْقٌ ၏ အမျိုးအစားများ

تَصَوُّرٌ နှင့် تَصْدِيْقٌ (၁)ခုတိုင်းသည် بَدِيْهِىٌّ နှင့် نَظَرِىٌّ ဟူ၍ (၂)မျိုးစီ ထပ်ရှိသည်။

စေ့စေ့စပ်စပ် ရှာဖွေစူးစမ်း၍ တိုးချဲ့ဆင်ခြင်ရန်နှင့် အများသဘောကိုဆောင်သော ယေဘုယျနိဂုံးကို ဖော်ထုတ်ရန်လိုအပ်သော အသိမျိုးကို

نــظـرى ဟုခေါ်ပြီး၊ မည်သည့်စူးစမ်းမှုမျှ မလိုဘဲ အာရုံငါးပါးကို အခြေခံ၍ သိနိုင်သော ဒုတိယအသိမျိုးကို بديهى ဟုခေါ်ရပါသည်။ မြန်မာမှုပြုရာတွင် ဆင်ခြင်သိ နှင့် အာရုံသိဟုပြု ရပါသည်။

ဤသို့ဖြင့် အမျိုးအစား (၄)ခု ရရှိပါသည်။

(၁) تَصَوُّرٌ بَدِيْهِيٌّ (အာရုံသိပုဒ်)

(၂) تَصَوُّرٌ نَظَرِىٌّ (ဆင်ခြင်သိပုဒ်)

(၃) تَصْدِيْقٌ بَدِيْهِىٌّ (အာရုံသိအဆို)

(၄) تَصْدِيْقٌ نَظَرِىٌّ (ဆင်ခြင်သိအဆို)

**(၁) تَصَوُرٌ بَدِيْهِيٌّ (အာရုံသိပုဒ်)** ဆိုသည်မှာ စူးစမ်းရန်နှင့် တိုးချဲ့ ဆင်ခြင်ရန်မလိုအပ်ဘဲ သိနိုင်သော ပုဒ်မျိုးဖြစ်ပါသည်။

ဥပမာ။ ။ မီး၊ အအေး၊ အပူ၊ ရေ စသည်တို့ကို သိခြင်း။

**(၂) تَصَوُّرٌنَظَرِىٌّ (ဆင်ခြင်သိပုဒ်)** ဆိုသည်မှာ စေ့စေ့စပ်စပ် ရှာဖွေ စူးစမ်းရန်နှင့် တိုးချဲ့ဆင်ခြင်ရန် လိုအပ်သော အသိမျိုးဖြစ်ပါသည်။

ဥပမာ။ ။ ဂျင်န်၊ ဖရရှိသာ နှင့် حيوان ناطق တို့ကို သိခြင်း။

ရှင်းလင်းချက်။ မီး၊ ရေ၊ အပူ၊ အအေးစသည်တို့ကို သိရန် ရှည်ရှည်ဝေးဝေး စဉ်းစားတွေးတောရန်မလိုပါ။ သို့သော် ဂျင်န်၊ ဖရရှိသာတို့သည် အတွေ့အကြုံ အာရုံအသိဖြင့်သိထားသောအရာများ မဟုတ်သောကြောင့် အတွေးထဲ ချက်ချင်းမပေါ်နိုင်ပါ။ ထိုအရာများသည် အဘယ်အရာများ ဖြစ်သည်ကိုသိရန် စူးစမ်းခြင်း၊ တိုးချဲ့ဆင်ခြင်ခြင်းတို့အား မဖြစ်မနေပြုရမည်ဖြစ်သည်။ ဤနည်းအတိုင်း حيـوان نــاطق ဟူသော အခေါ်အဝေါ်သည် ယခင်က မကြုံဖူးသောကြောင့် ၎င်းကိုသိရန် စကားတတ်သောသတ္တဝါ ဟူသည် အဘယ်သတ္တဝါနည်းဟူ၍ အနည်းငယ် စူးစမ်းရသေးသည်။

**(၃)تَصْدِيْقٌ بَدِيْهِيٌّ (အာရုံသိအဆို)** ဆိုသည်မှာ စူးစမ်းရန်နှင့် တိုးချဲ့ ဆင်ခြင်ရန်မလိုအပ်ဘဲ သိနိုင်သော အဆိုမျိုးဖြစ်ပါသည်။

ဥပမာ - - -

(၁) ဝါကျတစ်ခုသည် အဟုတ်ဝါကျလည်းဖြစ်သည်၊ ထို့အတူ ၎င်းဝါကျသည် မဟုတ်ဝါကျလည်းဖြစ်သည်ဟု တပြိုင်တည်း သတ်မှတ်၍ မရနိုင်ပါ။

(၂) နှစ်သည်လေး၏ထက်ဝက်ဖြစ်သည်။

အစရှိသည့် အဆိုများကို **تصديق نظرى** ဟုခေါ်နိုင်ပါသည်။

**(၄) تصديق نظري (ဆင်ခြင်သိအဆို)** ဆိုသည်မှာ စေ့စေ့စပ်စပ် ရှာဖွေစူးစမ်း၍ တိုးချဲ့ဆင်ခြင်ရန်နှင့် အများသဘောကိုဆောင်သည့် ယေဘုယျနိဂုံးကို ဖေါ်ထုတ်ရန်လိုအပ်သော အဆိုမျိုးဖြစ်ပါသည်။

ဥပမာ။ ။ **العالم حادث** ကမ္ဘာကြီးသည်မတည်မြဲပါ။

ရှင်းလင်းချက်။ ။ (၂) သည် (၄)၏တစ်ဝက်ဖြစ်သည်ကိုသိရန် ရှည်ရှည်ဝေးဝေး စဉ်းစားစရာ မလိုပါ။

သို့သော် ကမ္ဘာကြီးမတည်မြဲသည်ကို အဆင့်ဆင့်မတွေးတောဘဲ ချက်ချင်းအဖြေထုတ်၍ မသိနိုင်ပါ။

(နိဒါန်းငယ်) ➤➤ ကမ္ဘာကြီးသည် အမြဲပြောင်းလဲနေပါသည်။ (မိမိ၏ အတွေ့အကြုံ)

(နိဒါန်းငယ်)➤➤ ပြောင်းလဲတတ်သော အရာတိုင်းသည် မတည်မြဲသော အရာများဖြစ်ပါသည်။(မိမိသိထားသောယေဘုယျအဆို)

(နိဂုံး) ➤➤ထို့ကြောင့် ကမ္ဘာကြီးသည် မတည်မြဲပါ။ (ရရှိလာသော အသိ) စသည်ဖြင့် အဆင့်ဆင့်တွေးတော၍ အဖြေထုတ်ရပါသည်။

## **نَظَرِىٌّ** (ဆင်ခြင်သိ) ကို အဘယ်သို့ရှာဖွေရပါသနည်း

**نـــظـــري** ဆိုသည်မှာ အတွေ့အကြုံ အာရုံအသိဖြင့် သိထားသော အသိကိုအခြေခံ၍ မိမိမသိသေးသော အရာဝတ္ထုတို့၏ အဖြစ်အပျက်၊ အချင်းအရာတို့အား စူးစမ်းခြင်းကိုခေါ်ဆိုပါသည်။

## **تصور نظري** နှင့်
## **تصديق نظري** ကို ဥပမာနှင့်တကွ ရှင်းလင်းချက်
## (تصور نظري)

ဥပမာ။ ။ တစ်ဦးတစ်ယောက်သည် **حيـــوان** (သတ္တဝါ) နှင့် **نـــاطـــق** (စကားတတ်သူ) စသည်တို့၏ အဓိပ္ပါယ်ကို သိထားသည်။ ထိုသူသည် သူသိထားသော **حيوان** နှင့် **ناطق** တို့အား စုစည်းလိုက်သည်။ ထိုအရာနှစ်ခုအား စုစည်းလိုက်ခြင်းကြောင့် **حيوان ناطق** ဟူ၍ ဖြစ်လာသည်။

စုစည်းမှုကြောင့် ပေါ်ထွက်လာသောအဓိပ္ပာယ်မှာ စကားတတ်သော သတ္တဝါဟူ၍ ဖြစ်သည်။ အမှန်တကယ်တော့ စကားတတ်သောသတ္တဝါဟူသည်မှာ လူသားသာလျှင် ဖြစ်သည်။ စကားလုံး နှစ်လုံးအား ထိုသို့ပေါင်းစပ်လိုက်ခြင်းကြောင့် မသိသေးသော လူသား၏ အမည် အသစ်အဆန်း တစ်ခုဖြစ်သော **حيـــوان نـاطـق** ကို သိလိုက်ရသည်။ ထိုသို့ သိပြီးနောက် **حيوان ناطق** အား **إنسان** ၏နေရာတွင် အစားထိုး သုံးစွဲလာကြသည်။

## (تصديق نظري)

ဥပမာ - - -

နိဒါန်းငယ်➢➢ လူတစ်ဦးသည် အလ္လာဟ်ရှင်မြတ်၏ဘက်တော်မှ မကောင်းမှုဟုသတ်မှတ်ထားသော အရာတိုင်းသည် ဂိုနဟ်ဖြစ်သည်ကို သိသည်။

နိဒါန်းကြီး➢➢ ထို့အတူ လိမ်လည်ပြောဆိုခြင်းကို အလ္လာဟ်ရှင်မြတ်က မကောင်းမှုဟု သတ်မှတ်ထားသည်ကိုလည်း သိသည်။

အထက်ဖော်ပြပါ အသိနှစ်ခုကို ပေါင်းစပ်လိုက်ခြင်းဖြင့်

နိဂုံး➢ လိမ်လည်ပြောဆိုခြင်းသည် ဂိုနဟ်ဖြစ်သည်ကို သိလိုက်ရသည်။

အတွေ့အကြုံ အာရုံအသိဖြင့် သိထားသောအသိ (နိဒါန်းငယ်နှင့် နိဒါန်းကြီး)ကို အခြေခံ၍ မိမိမသိသေးသောအရာဝတ္ထုတို့၏ အဖြစ်အပျက်နှင့်အချင်းအရာတို့ကို စူးစမ်းခြင်း၊ထုတ်ယူဆင်ခြင်လိုက်ခြင်းဖြင့် ((လိမ်လည်ပြောဆိုခြင်းသည် ဂိုနဟ်ဖြစ်သည်))ဟူ၍ ယေဘုယျနိဂုံးတစ်ခု ပေါ်ထွက်လာသည်။

## လေ့ကျင့်ခန်း (၄)

၁။ علم ဆိုသည်မှာ အဘယ်နည်း။ منطق ၏ ရှုထောင့်အရ ၎င်း၏ အမျိုးအစားမည်မျှရှိသနည်း။

၂။ تصور နှင့် تصديق အား ၎င်းတို့၏ အမျိုးအစားများနှင့်တကွ ရှင်းပြပါ။

၃။ بديهي နှင့် نظري တို့၏ ခြားနားချက်ကို ဥပမာနှင့် တကွ ရှင်းပြပါ။

၄။ نظري ဆိုသည်မှာ အဘယ်ပုံစံကို ခေါ်ပါသနည်း။ ရှင်းပြပါ။

## تصورات (ပုဒ်များ)

ဝါကျသည် ဘာသာစကားတရပ်၏ အစိတ်အပိုင်းတခုဖြစ်၏။ ထို့ကြောင့် အဆိုတစ်ခုသည် ဆင်ခြင်ခြင်း၏အခြေခံဖြစ်သည်ဟု မှတ်ယူနိုင်သကဲ့သို့ ဝါကျတစ်ခုသည်လည်း ဘာသာစကားတရပ်၏ အခြေခံဖြစ်သည်ဟု မှတ်ယူနိုင်သည်။ ဝါကျသည် သဒ္ဒါ၏အခြေခံဖြစ်သကဲ့သို့ အဆိုသည် ယုတ္တိဗေဒ၏ အခြေခံဖြစ်သည်ကိုကား မမေ့ထိုက်ပေ။ ထို့ကြောင့် စာပိုဒ်တစ်ခုကို သဒ္ဒါနည်းလမ်းဖြင့် ခွဲခြမ်းစိတ်ဖြာမှု ပြုလုပ်ခြင်းနှင့် ယုတ္တိဗေဒနည်းဖြင့် ခွဲခြမ်းစိတ်ဖြာမှုပြုလုပ်ခြင်းတို့သည် ဘာသာစကားနှင့် ဆက်နွယ်နေသည်။ ဘာသာစကားသည် အဖြစ်အပျက်များကို ထုတ်ဖေါ်ပြောကြားခြင်း၊ တွေ့ကြုံရသောအခြေအနေ၊ အရာဝတ္တုတို့နှင့်ပတ်သက်၍ ခံစားတုံ့ပြန်ပုံကို ထုတ်ဖော်ခြင်း အခြားသူများအား ပန်ကြားခြင်း၊ ဩဇာပေးခြင်းတို့နှင့် သက်ဆိုင်မှုရှိ၏။ သို့သော် အက္ခရာများသက်သက်ချည်းဖြင့် ဘာသာစကားဖြစ်ပေါ်လာသည်မဟုတ်။ အက္ခရာများ စုပေါင်းထားသည့် စကားလုံးများသက်သက်ချည်းဆိုလျှင်လည်း မည်သည့်အဖြစ်အပျက်ကိုမျှ ထုတ်ဖော်ပြောကြားခြင်း ပြုနိုင်မည်မဟုတ်။ ဝါကျများကသာလျှင် အဖြစ်အပျက်များကို ထုတ်ဖေါ်ပြောကြားနိုင်သည်။ တဖန် အက္ခရာများကို မိမိထင်သလိုပေါင်းစပ်ခြင်းဖြင့်လည်း အဓိပ္ပါယ်ရှိသော စကားလုံးများမရနိုင်ချေ။ ထိုနည်းတူစွာ စကားလုံးများကို မိမိထင်သလို ဆက်စပ်ခြင်းဖြင့် ဝါကျများ မရနိုင်ချေ။ منطق (ဝါ) ယုတ္တိဗေဒပညာရပ်အား သင်ယူသူသည် မိမိအခြေပြု၍ သင်ယူမည့်ဘာသာစကားကို ပိုင်နိုင်ရမည်ဖြစ်သည်။ ကျွန်တော်တို့သည် ယုတ္တိဗေဒကို အရဗီဘာသာစကားအား အခြေခံလျှက် သင်ယူလေ့လာမည်ဖြစ်သောကြောင့် အရဗီစကားလုံးများနှင့် အရဗီဝါကျများကိုပါ လေ့လာသင်ယူထားရန် လိုအပ်ပါသည်။ ဦးစွာပထမ အရဗီစကားလုံးများကို تصورات (ပုဒ်များ)ဟူသောခေါင်းစဉ်အောက်တွင် လေ့လာသွားမည်။ ရှေ့လာမည့်

အခန်းများတွင် အရဗီဝါကျဖွဲ့စည်းပုံးများကို تصديقات (အဆိုများ)ဟူသော ခေါင်းစဉ်အောက်တွင် လေ့လာသွားမည်ဖြစ်သည်။

### အရဗီစာလုံးများအား ရှုထောင့်ပေါင်းစုံမှ လေ့လာထားရန်

(၁) စာလုံးတစ်ခု၏ဘာသာစကားဆိုင်ရာမူလအဓိပ္ပါယ်နှင့် သတ်မှတ်သုံးစွဲလိုသောအဓိပ္ပါယ်ကို ခွဲခြားသိခြင်း၊

(၂) مفرد နှင့်၊ مركب (ဝါ) စကားလုံးနှင့်စကားစုများကို ခွဲခြား သိခြင်း၊

(၃) كثير المعنى နှင့် واحد المعنى (ဝါ) အရဗီစာလုံးတစ်ခုသည် အဓိပ္ပါယ်တစ်ခုသာ ဖေါ်ဆောင်ခြင်းနှင့် အဓိပ္ပါယ်အများအပြားကို ဖေါ်ဆောင်ခြင်းကို ခွဲခြားသိခြင်း၊

(၄) စာလုံးတစ်ခုမှ ဖေါ်ဆောင်နေသော အဓိပ္ပါယ်သည် ပုဂ္ဂလိကပုဒ်ဖြစ်သည် သို့မဟုတ် ယေဘုယျပုဒ်ဖြစ်သည်ကို ခွဲခြားသိခြင်း စသော ရှုထောင့်အသီးသီးမှ လေ့လာရန် လိုအပ်ပါသည်။

## الدلالة والوضع

### ညွှန်ပြသင်္ကေတနှင့် ညွှန်ပြအဓိပ္ပါယ်သတ်မှတ်ချက်

အရဗီစာပေ၌ الدلالة ၏ ဘာသာစကားဆိုင်ရာအဓိပ္ပါယ်မှာ إراءة الطريق (လမ်းပြခြင်း) ဖြစ်သည်။

**اصطلاحا** ፡ ပညာရပ်ဆိုင်ရာဝေါဟာရ အဓိပ္ပါယ်မှာ-

အာရုံအသိဖြင့် တွေ့ကြုံခံစား၍သိနိုင်သော အရာဝတ္ထုတစ်ခုသည် တစ်ခါတရံ တိုက်ရိုက်မခံစားနိုင်၊ မတွေ့နိုင်၊မကြားနိုင်သော အရာဝတ္ထုတစ်ခုဘက်သို့ ညွှန်ပြတတ်ပါသည်။ ထိုသို့ညွှန်ပြခြင်းကြောင့် (တိုက်ရိုက်)တွေ့ကြုံခံစား၍ မသိနိုင်သော အညွှန်းခံအရာဝတ္ထုအား သိရပါသည်။ ဖေါ်ပြပါ ညွှန်ပြခြင်းမျိုးကို دلالة ဟုခေါ်နိုင်ပါသည်။

ဥပမာ။ မီးလောင်နေသည်ကို တိုက်ရိုက်မတွေ့နိုင်၊ မသိနိုင်၊ မကြား နိုင်သောအခါမျိုးတွင် တိုက်ရိုက်တွေ့မြင်နေရသော မီးခိုး၏အကြောင်းခံဖြင့် (သို့မဟုတ်) မီးသတ်ကားသံကြားနေရခြင်းကြောင့် မီးလောင်နေသည်ကို သိရှိရပါသည်။

ထို့ကြောင့် ဖေါ်ပြပါအခြေအနေတွင် မီးခိုးနှင့် မီးသတ်ကားသံတို့ သည် ညွှန်ပြနေသောအရာများ ဖြစ်ကြသည်။ မီးလောင်မှုသည် အညွှန်းခံ ဖြစ်ပါသည်။

## **الدلالة** ၏အမျိုးအစားများ

**الدلالة** (၂)မျိုးရှိပါသည်။

(၁) **الدلالة اللفظية** (စကားသံဖြင့် ညွှန်ပြခြင်း)

(၂) **الدلالة غير اللفظية** ( စကားသံမဲ့ ညွှန်ပြခြင်း)

အထက်ဖေါ်ပြပါ **دلالة** နှစ်မျိုးစလုံးသည် အမျိုးအစား (၃)မျိုးစီ ပြန်ခွဲ ထွက်ပါသည်။

**(၁) الوضعية (၂) الطبيعية (၃) العقلية**

(၁) **الوضعية** (သတ်မှတ်သုံးစွဲမှုအတွက် ညွှန်ပြခြင်း)

ဆိုလိုသည်မှာ အမည် သို့မဟုတ် အမှတ်အသားနှင့်သင်္ကေတ စသည် တို့သည် ၎င်းတို့အတွက်သတ်မှတ်ထားသည့် အရာဝတ္ထု သို့မဟုတ် အဓိပ္ပါယ် ဘက်သို့ ညွှန်ပြနေခြင်း။

(၂) **الطبيعية** (ခန္ဓာကိုယ်၏သဘာဝအရ အလိုအလျောက် ညွှန်ပြခြင်း)

ဆိုလိုသည်မှာ သတ္တဝါတို့၏ခန္ဓာကိုယ်မှ သဘာဝအရ အလိုအ လျောက် ညွှန်ပြနေသည့် **دلالة** မျိုး။

(၃) **العقلية** (ဆင်ခြင်တိုင်းထွာမှု၏ ညွှန်ပြခြင်း)

ဆိုလိုသည်မှာ စဉ်းစားဆင်ခြင်၍သာ နားလည်နိုင်သော ညွှန်ပြမှုများ။

ဤသို့ဖြင့် الــــــــــــدلالة ၏ အမျိုးအစား စုစုပေါင်း (၆)မျိုး ဖြစ်သွားလိမ့်မည်။

## الدلالة اللفظية (၃) မျိုး

**(နှုတ်မှ ထွက်သော အသံ၊ စကားတို့၏ ညွှန်ပြပုံ (၃)မျိုး)**

(၁) الـدلالة الـلـفـظـية الوضعية (ညွှန်ပြ အဓိပ္ပါယ်သတ်မှတ်ချက်အပေါ် စကားသံဖြင့် ညွှန်ပြခြင်း)

ဥပမာ။ دلالة لفظ السماء على معناه ။

السماء ဆိုသော စကားလုံးသည် ၎င်းအတွက် သတ်မှတ်ထားသော အဓိပ္ပါယ်ကို ညွှန်ပြပါသည်။

ဤဥပမာ၌ ညွှန်ပြသောအရာသည် السماء ဟူသော စကားလုံးဖြစ်သည်။ ထိုစကားလုံးအား ကောင်းကင်ဟူသော အဓိပ္ပါယ်အတွက် သတ်မှတ်ထားသောကြောင့် ထိုစကားကို နှုတ်မှ ထုတ်ဖေါ်လိုက်သည်နှင့် ချက်ချင်း ((ကောင်းကင်)) နှင့်ပတ်သက်၍ တစ်ခုခုပြောဆိုတော့မည်ကို နားထောင်သူသည် သိလိုက်ပါသည်။

(၂) الدلالة اللفظية الطبيعية (ခန္ဓာကိုယ်၏အခြေအနေကို နှုတ်၏အသံမှ ညွှန်ပြခြင်း)

ဥပမာ။ دلالة اُحُ اُحُ على وجع الصدر ။

اُحُ اُحُ ဟူသော ချောင်းဆိုးသံသည် ရင်ခေါင်းနာနေသည်၊ ရင်ကြပ်နေသည်ကို ဖေါ်ပြပါသည်။

ဤဥပမာ၌ လူနာသည်ရင်ကြပ်နေသည်ကို ကိုယ်တိုင်ဖေါ်ထုတ်၍ မပြောသော်လည်း ထိုသူ၏ ကျန်းမာရေးအပေါ် اُحْ اُحْ ဟူသော ချောင်းဆိုးသံသည် ညွှန်ပြနေပါသည်။

(၃) **الدلالة اللفظية العقلية** (ဆင်ခြင်တိုင်းထွာမှုအရ စကားသံ၏ညွှန်ပြခြင်း)

ဥပမာ။ **دلالة الكلمة المهملة المسمو عة من وراء الجد ار على وجو د المتكلم**

ဤဥပမာ၌ စကျွအာရုံဖြင့် ထိုးဖေါက်မမြင်နိုင်သော နံရံနောက်မှ ကြားရသော အသံဗလံသည် ထိုနေရာ၌ လူရှိနေသည်ကို ဖေါ်ပြပါသည်။ ထိုအသံ၏ညွှန်ပြချက်ကို စဉ်းစားတွေးတော၍သာ သိနိုင်ပါသည်။

## الدلالة غير اللفظية (၃) မျိုး

(နှုတ်မှ မြွက်ဟာမှုမပြုဘဲ အခြားသောနည်းလမ်းတို့ဖြင့် ညွှန်ပြနေသော **دلالة** မျိုး)

(၁) **الـدلالة غيـر اللـفـظية الـوضـعية** (ညွှန်ပြသင်္ကေတအပေါ် စကားသံမဲ့ ညွှန်ပြခြင်း)

ဥပမာ ---

**دلالة الإشارات والعلامات المنصو بة في الطرق على مد لو لاتها**

လမ်းမကြီးများတွင်တပ်ဆင်ထားသော (သို့) ရေးဆွဲထားသော အမှတ်အသားများနှင့် ညွှန်ပြချက်များသည် ၎င်းတို့အား အသုံးချ၍ ညွှန်ပြစေလိုသော အရာဝတ္တုများ နှင့် သဘောတရားများအပေါ်၌ ညွှန်ပြနေပါသည်။

ပမာဆိုရသော် မီးနီနေခြင်းသည် လမ်းဖြတ်မကူးရဟူသော သဘောတရားကို ပေးပါသည်။ ယဉ်ထိန်းရဲက အသင်တို့ ဤနေရာတွင်ရပ်နေပါဟု မပြောသော်လည်း မီးနီနေခြင်းသည်ရပ်ရမည်ဟူသော သဘောတရားကို ပေးပါသည်။ ထိုသို့ သဘောတရားပေးရခြင်းသည် မီးနီခြင်းကို((ရပ်))ဟူသော သဘောတရားအတွက် သတ်မှတ်ထားသောကြောင့်သာဖြစ်သည်။

(၂) **الدلالة غير اللفظية الطبيعية** (ခန္ဓာကိုယ်၏ စကားသံမဲ့ ညွှန်ပြခြင်း)

ဥပမာ။ **دلالة سرعة النبض على شدة المرض**။

သွေးခုန်နှုန်းမြန်ခြင်းသည်ကျန်းမာရေးဆိုးရွားမှုကို ညွှန်ပြပါသည်။ ကျန်းမာရေး ဆိုးရွားမှုကို လူနာသည် နှုတ်မှ ထုတ်ဖော်မပြောသော်လည်း သူ၏ ခန္ဓာကိုယ်သည် သူ၏ ကျန်မာရေးအခြေအနေကို ညွှန်ပြပါသည်။

(၃) **الدلالة غير اللفظية العقلية** (ဆင်ခြင်တိုင်းထွာမှု၏စကားသံမဲ့ညွှန်ပြခြင်း)

ဥပမာ။ **دلالة الدخان على النار** ။

မီးခိုးသည်မီးရှိခြင်းကို ညွှန်ပြပါသည်။ မီးလောင်နေသည်ကို တိုက်ရိုက်မတွေ့နိုင်၊ မသိနိုင်သောအခါမျိုးတွင် တိုက်ရိုက် တွေ့မြင်နေရသော မီးခိုး၏ အကြောင်းခံဖြင့် (သို့မဟုတ်) မီးသတ်ကားသံ ကြားနေရခြင်းဖြင့် မီးလောင်နေသည်ကို သိရှိရပါသည်။ မီးသတ်ကားသံ၏ မီးလောင်ခြင်းကို ညွှန်ပြမှုသည် စဉ်းစားတွေးတော၍သာ သိရပါသည်။

## الدلالة اللفظية الوضعية ၏အမျိုးအစားများ

ညွှန်ပြအဓိပ္ပါယ်သတ်မှတ်ချက်အပေါ် (စကားသံဖြင့်) ညွှန်ပြသည့်ပုံစံ (၃)မျိုးရှိပါသည်။

**(၁) المُطَابِقى (၂) التضمنى (၃) الالتزامى**

(၁) **المطابقي** ဆိုသည်မှာ စာလုံးတစ်လုံးသည် မိမိအတွက် သတ်မှတ်ထားသည့် အဓိပ္ပါယ်ကို (တင်းပြည့်ကျပ်ပြည့်) ဖော်ဆောင်ခြင်းမျိုးဖြစ်သည်။

ဥပမာ။ **دلالة لفظ البيت على معناه** ။

အိမ်တစ်အိမ်လုံးကို ညွှန်ပြစေလိုသည့် အခါမျိုး၌ **بيت** ဟူသော စာလုံးအား အသုံးပြုလိုက်ပါသည်။ ထိုသို့ အသုံးပြုလိုက်ခြင်းကြောင့်

စာလုံးသည် သူ၏ အဓိပ္ပါယ်အပေါ် တင်းပြည့်ကျပ်ပြည့် ညွှန်ပြပါသည်။ ဤပုံစံဖြင့် တင်းပြည့်ကျပ်ပြည့် ညွှန်ပြခြင်းမျိုးကို **المطابقية** ပုံစံဖြင့် ညွှန်ပြသည်ဟုဆိုပါသည်။

(၂) **التضمني** ဆိုသည်မှာ စာလုံးတစ်လုံးသည် မိမိအတွက် သတ်မှတ်ထားသည့် အဓိပ္ပါယ်ကို တင်းပြည့်ကျပ်ပြည့်မညွှန်ပြဘဲ ထိုအဓိပ္ပါယ်၏ အချို့အစိတ်အပိုင်းကိုသာ ညွှန်ပြခြင်းမျိုးဖြစ်သည်။

ဥပမာ။ ။ **دلالة لفظ البيت على جدار فقط**

**بيت** ဟူသော စာလုံးအား အသုံးပြု၍ အိမ်၏တံတိုင်းကိုသာ ညွှန်ပြစေလိုသောအခါမျိုးတွင် အဓိပ္ပါယ်အပေါ် ထို စာလုံး၏ညွှန်ပြချက်သည် **التضمنى** ပုံစံဖြင့် ညွှန်ပြနေသည်ဟု ပြောဆိုနိုင်ပါသည်။

(၃) **الالتزامي** ဆိုသည်မှာ စာလုံးတစ်လုံးသည် မိမိအတွက်သတ်မှတ်ထားသည့် အဓိပ္ပါယ်ကိုမညွှန်ပြဘဲ ထိုအဓိပ္ပါယ်နှင့်ဆက်နွယ်နေသော အဓိပ္ပါယ်တစ်ခုခုကို ညွှန်ပြနေခြင်း။

ဥပမာ။ ။ **دلالة لفظ الكاتب على القلم**

**كاتب** ဟူသော စာလုံးအား အသုံးပြု၍ စာရေးသူဟူသော အဓိပ္ပါယ်ကို မညွှန်ပြစေဘဲ ၊ စာရေးသားမှုတွင်မဖြစ်မနေလိုအပ်သည့် ကလောင်တံဟူသည့် အဓိပ္ပါယ်အပေါ် ညွှန်ပြစေလိုသော အခါမျိုးတွင် ထညွှန်ပြချက်ကို **الالتزامى** ပုံစံဖြင့် ညွှန်ပြသည်ဟု ပြောဆိုနိုင်ပါသည်။

ကလောင်တံသည် စာရေးသူ၏ခန္ဓာကိုယ်အစိတ်အပိုင်း မဟုတ်သော်လည်း စာရေးသူနှင့် **لازم** (ခ) ပတ်သက်နေသော အရာတစ်ခုသာ ဖြစ်ပါသည်။

## အမည်မှည့်ခေါ်ခြင်းများ၏ အကြောင်းတရားများ

ပထမအမျိုးအား **مطابقى** ဟုခေါ်ရခြင်းမှာ စာလုံးနှင့် ကောက်ယူလိုသော အဓိပ္ပါယ်သည် ပြည့်ပြည့်ဝဝ ကိုက်ညီမှုရှိသောကြောင့်ဖြစ်သည်။

ဒုတိယအမျိုးအား **تضمنى** ဟုခေါ်ရခြင်းမှာ ကောက်ယူလိုသော အဓိပ္ပါယ်သည် ထိုစာလုံးအတွက် သတ်မှတ်ထားသော အဓိပ္ပါယ်၏အတွင်း၌ အစိတ်အပိုင်းတစ်ခု အနေဖြင့် ပါဝင်နေသောကြောင့် ဖြစ်သည်။

တတိယ အမျိုးအား **الالتزامى** ဟုခေါ်ရခြင်းမှာ ကောက်ယူလိုသော အဓိပ္ပါယ်သည် ထိုစာလုံးအတွက် သတ်မှတ်ထားသောအဓိပ္ပါယ်နှင့်ပတ်သက်နေသောကြောင့် ဖြစ်သည်။

## လေ့ကျင့်ခန်း (၅)

၁။ **الـــدلالة** ဟူသော စကားလုံး၏ ဘာသာစကားဆိုင်ရာ အဓိပ္ပါယ်နှင့် ပညာရပ်ဆိုင်ရာ အဓိပ္ပါယ်ကို ရေးပါ။

၂။ **الـدلالة اللفظية** ၏ အမျိုးအစားမည်မျှရှိသနည်း။ ဥပမာနှင့် တကွ ရေးပါ။

၃။ **الـدلالة الـلـفـظية الـوضـعية** မည်မျှရှိသနည်း။ ၎င်းတို့ကို ဥပမာနှင့်တကွ ရှင်းပြပါ။

၄။ **الـدلالة غيـر الـلفظية** ၏ အမျိုးအစားမည်မျှရှိသနည်း။ ဥပမာနှင့် တကွ ရေးပါ။

၅။ تـــصـــورات သည် مـــنـــطـــق ပညာနှင့် မည်သို့ ဆက်စပ်မှုရှိပါသနည်း။

### معني الموضوع له (အဓိပ္ပါယ်သတ်မှတ်ချက်) အပေါ် ညွှန်ပြသည့် ပုဒ် (၂) မျိုးရှိပါသည်။

(၁) **مفرد** (စကားလုံး)

(၂) **مركب** (စကားစု)

## စကားလုံး

## المفرد: مالا يدل جزء لفظه على جزء معناه .

စာလုံးတစ်လုံးကို အစိတ်အပိုင်းတစ်ခုထက်ပို၍ ပိုင်းခြားလိုက်သည့်နောက် ထိုစာလုံး၏အစိတ်အပိုင်းများသည် စာလုံးတစ်ခုလုံး၏ အဓိပ္ပါယ်၏ တစိတ်တဒေသကို မဖေါ်ဆောင်နိုင်ပါက ထိုစာလုံးကို **مفرد** ဟုခေါ်သည်။

ဥပမာ။ ။ **زيد , الإنسان**

ရှင်းလင်းချက်။ **زيـد** ဟူသည် စာလုံး၌ **زاى** သို့မဟုတ် **دال** သည် **زيد** ဟူသောစာလုံး၏ အဓိပ္ပါယ်၏ တစိတ်တဒေသကို မဖေါ်ဆောင်နိုင်ပါ။

## စကားစု

## المركب: مادل جزء لفظه على جزء معناه

စာလုံးတစ်လုံးကို အစိတ်အပိုင်းတစ်ခုထက်ပို၍ ပိုင်းခြားလိုက်သည့်နောက် ထိုစာလုံး၏အစိတ်အပိုင်းများသည် အဓိပ္ပါယ်ဖေါ်ဆောင်သည့်တာဝန်ကို ခွဲယူထမ်းဆောင်နိုင်စွမ်းရှိပါက ထိုစာလုံးကို **مـــــركـــــب** ဟုခေါ်သည်။

ဥပမာ။ ။ **كاتب الرسالة , قارئ القرآن**

ရှင်းလင်းချက်။ **كاتب الرسالة** သည် **كاتب** ၌ **كاتب الرسالة** ၏အဓိပ္ပါယ်အချို့ကို ဖေါ်ဆောင်နိုင်ပါသည်။

(အလွယ်ပြောရလျှင် စကားစုတစ်ခုကို ခွဲခြမ်းလိုက်လျှင် အဓိပ္ပါယ်ရှိနေသေးသော်လည်း၊ စကားလုံးတစ်လုံးကိုမူ ခွဲခြမ်းလိုက်လျှင် အဓိပ္ပါယ်မရှိတော့ပါ။

**مفرد (၃) မျိုး ရှိပါသည်။**

**(၁) اسم (၂) كلمة (၃) أداة**

(၁) **اسم** ဆိုသည်မှာ တကိုယ်ရည်ရပ်တည်၍ အဓိပ္ပါယ်ကို ကိုယ်တိုင်ဖေါ်ဆောင်နိုင်သော စကားလုံး ဖြစ်ပါသည်။ အဓိပ္ပါယ်ကို ဖေါ်ဆောင်ရာတွင် အခြားစကားလုံးများအပေါ်မှီခိုရန် သို့မဟုတ် ထိုစကားလုံးများနှင့် ပူးတွဲရန် မလိုပါ။ **اسم** ၏ အဓိပ္ပါယ်သည် အချိန်ကာလကန့်သတ်ချက် မရှိပါ။

ဥပမာ။ ။ **زيد - عمر**

(၂) **كلمة** ဆိုသည်မှာ တကိုယ်ရည်ရပ်တည်၍ အဓိပ္ပါယ်ကို ကိုယ်တိုင်ဖေါ်ဆောင်နိုင်သော စကားလုံး ဖြစ်ပါသည်။ အဓိပ္ပါယ်ကိုဖေါ်ဆောင်ရန် အခြား စကားလုံးများအပေါ် မှီခိုရန် သို့မဟုတ် ထိုစကားလုံးများနှင့်ပူးတွဲရန် မလိုပါ။ သို့သော် စကားလုံး၏ အဓိပ္ပါယ်တွင် အချိန်ကာလသုံးခုအနက် တစ်ခုခု ပါဝင် မည်ဖြစ်သည်။

ဥပမာ။ ။ **أكل - ذهب**

(၃) **أداة** ဆိုသည်မှာ အခြား စကားလုံးများနှင့် မပေါင်းစည်းဘဲ တကိုယ်ရည်ရပ်တည်ပြီး အဓိပ္ပါယ်ကို ဖော်ဆောင်နိုင်စွမ်းမရှိသော စကားလုံး ဖြစ်ပါသည်။ ထို့အတူ အချိန်ကာလသုံးခုအနက် မည်သည့်အချိန်ကာလနှင့်မျှလည်း ပတ်သက်ခြင်း မရှိပါ။

ဥပမာ။ ။ **من - إلى**

# تقسيم الاسم إلى واحد المعنى و كثير المعنى

## اسم ၏ အဓိပ္ပါယ်တစ်ခု (သို့) တစ်ခုထက်ပိုခြင်းအပေါ် အခြေခံ၍ اسم၏ အမျိုးအစား (၈)မျိုး ရှိပါသည်။

(အမျိုးအစားအားလုံး၏ အနှစ်ချုပ်ကိုဦးစွာ ဖော်ပြပြီးနောက်၊ အမျိုးအစားတစ်ခုတိုင်း၏ ဖွင့်ဆိုချက်များကို အကျယ်တဝင့် ဖော်ပြသွားမည်ဖြစ်ပါသည်။)

အဓိပ္ပါယ်တစ်ခုသာဖော်ဆောင်ပေးသော اسم သည် အရာတစ်ခု၏ အမည်သာ ဖြစ်နေပါက ထို اسم အား جزئی (ဇောဝိဒပုဒ်)ဟုခေါ်ပြီး အဓိပ္ပါယ်တစ်ခုသာဖော်ဆောင်သော اسم သည် အရာတစ်ခု၏ အမည် သီးသန့်မဖြစ်ဘဲ အရာဝတ္ထု အမြောက်အမြား၏ အမည်ဖြစ်နေပါက ၄င်း اسم အား كلى(ယေဘုယျပုဒ်)ဟု ခေါ်သည်။

كلى ယေဘုယျပုဒ်သည် (၂)မျိုးရှိပါသည်။

(၁) الكلى المتوطئى (အချိုးညီ ယေဘုယျပုဒ်)

(၂) الكلى المشكك (အချိုးမညီ ယေဘုယျပုဒ်)

အကယ်၍ اسم တစ်ခုသည် အဓိပ္ပါယ်တစ်ခုထက်မက ဖော်ဆောင်နေပါက ၎င်း اسم သည် (၄)မျိုး ရှိပါသည်။

(၁) المشترك (၂) المنقول

(၃)الحقيقة (၄)المجاز

اســـم ၏ တစ်ခုထက်ပိုနေသော အဓိပ္ပါယ်များအနက်မှ အဓိပ္ပါယ် တစ်ခုတိုင်းသည် ထို اسم ၏ သတ်မှတ်ခံ အဓိပ္ပါယ်များဖြစ်ပါက ၎င်း اسم အား المشترك ဟု ခေါ်ပြီး၊

اســــــم ကို ဘာသာစကားဆိုင်ရာ အဓိပ္ပါယ်အတွက် အသုံးမပြု တော့ဘဲ အခြားအဓိပ္ပါယ် တစ်ခုခုအတွက် ပြောင်းလဲသုံးစွဲပါက ၎င်း اسم အား المنقول ဟုခေါ်သည်။

اســم ၏ တစ်ခုထက်ပိုသောအဓိပ္ပါယ်များရှိသည့်အနက် ထို اســم အားသတ်မှတ်ခံအဓိပ္ပါယ်အတိုင်းသုံးစွဲပါက الــحــقيــقة ဟုခေါ်ပြီး၊ ထိုသို့ သုံးစွဲခြင်း မပြုဘဲ အခြားအဓိပ္ပါယ် တစ်ခုအတွက် သုံးစွဲပါက ထို اســــــم အား المجاز ဟု ခေါ်ပါသည်။

## اسم (၈)မျိုးအနက် တစ်ခုတိုင်း၏ အဓိပ္ပါယ် ဖွင့်ဆိုချက်

## تعريف الجزئى:هُوَ مَالاَ يَصْدُقُ إِلَّا عَلٰى شَىْءٍ وَاحِدٍ مُعَيَّنٍ.

## (၁) ဇကာဝိဒပုဒ်

(အဓိပ္ပါယ် တစ်မျိုးသာဖေါ်ဆောင်သော اسمသည်) သီးသန့် တစ်ခု၊ တစ်ကောင်၊ တစ်ယောက်နှင့်သာ သက်ဆိုင်ပါက ထို اسم အား جزئى ဟု ခေါ်သည်။ ဥပမာ။ ။ زيد , هذا الجدار، هذا الرجل

## تعريفُ الكُلِّيِّ:هُوَ مَا يَصْدُقُ عَلٰى أَفْرَادٍ كَثِيْرَةٍ.

## (၂) ယေဘုယျပုဒ်

(အဓိပ္ပါယ်တစ်မျိုးသာ ဖေါ်ဆောင်သော اســـــم သည်) သီးသန့် အရာဝတ္ထုတစ်ခုအတွက်သာ မဖြစ်ဘဲ တစ်ခုထက်မကသော အရာများနှင့် သက်ဆိုင်ပါက ထို اسم အား كلى ဟု ခေါ်သည်။

ဥပမာ။ ။ الإنسان (လူသား)

(ရှင်းလင်းချက်။ الإنسـان ဟူသော စာလုံးသည် ကမ္ဘာပေါ်၌ နေထိုင်သော လူသားအားလုံးအတွက်ဖြစ်သည်။)

كلى နှစ်မျိုးရှိပါသည်။

(၁) المتواطى (အချိုးညီယေဘုယျပုဒ်)

(၂) المشكّك (အချိုးမညီယေဘုယျပုဒ်)

## تعريف الكلى المتواطئ: هُوَ مَا يَصْدُقُ عَلٰى جَمِيْعِ أَفْرَادِه عَلَى السَّوَاءِ

## (၃) အချိုးညီယေဘုယျပုဒ်

(အဓိပ္ပါယ်တစ်မျိုးသာဖေါ်ဆောင်ပြီး ယေဘုယျပုဒ်ဖြစ်သော اســـم သည်) ပိုခြင်း၊ လျှော့ခြင်း၊ နည်းခြင်း၊ များခြင်းမရှိဘဲ မိမိနှင့်သက်ဆိုင်သော အရာအားလုံးအပေါ် တပြေးညီ သက်ရောက်ပါက ထို اسم အား الـكـلى المتواطئ ဟုခေါ်သည်။

ဥပမာ။ ။ الرجل (အမျိုးသား) المرأة (အမျိုးသမီး)။

ရှင်းလင်းချက်။ ။ အမျိုးသားအားလုံးသည် အမျိုးသားဖြစ်ခြင်းတွင် ပိုခြင်း၊ လျှော့ခြင်း၊ နည်းခြင်း၊ များခြင်း စသည့်ကွဲပြားမှုများ မရှိနိုင်ပါ။

## تَعْرِيْفُ الْكُلِّيِّ الْمُشَكِّكِ: هُوَ مَالاَيَصْدُقُ عَلٰى جَمِيْعِ أَفْرَادِه عَلَى السَّوَاءِ

## (၄) အချိုးမညီ ယေဘုယျပုဒ်

(အဓိပ္ပါယ်တစ်မျိုးသာဖေါ်ဆောင်ပြီး ယေဘုယျပုဒ်ဖြစ်သော **اسم** သည်) မိမိနှင့် သက်ဆိုင်သော အရာအားလုံးအပေါ် တပြေးညီမဟုတ်ဘဲ ပိုခြင်း၊ လျော့ခြင်း၊ နည်းခြင်း၊ များခြင်း စသည့်မတူကွဲပြားသော ပုံစံများဖြင့် သက်ရောက်ပါက ထို **كلى** အား **الكلى المشكك** ဟု ခေါ်သည်။

ဥပမာ။ ။ (၁) အဖြူ (၂) အနက် (၃) ပညာရှိခြင်း
(၄) ပညာမဲ့ခြင်း။

ရှင်းလင်းချက်။ ။ အဖြူရောင်၏ ဖြူစင်ခြင်းသည် အရာဝတ္ထုအားလုံးတွင် တစ်ပုံစံတည်း မဟုတ်ဘဲ နည်းခြင်း၊ များခြင်း၊ ပိုခြင်း၊ လျော့ခြင်း ရှိနိုင်ပါသည်။ ထိုနည်းအတိုင်း ပညာရှိခြင်း၊ ပညာမဲ့ခြင်းတို့သည်လည်း နည်းများမှု ရှိနိုင်ပါသည်။

## المشترك: هُوَ اللَّفْظُ الْوَاحِدُ الْمَوْضُوْعُ لِمَعَانٍ مُتَعَدِّدَةٍ بِأَوْضَاعٍ مُخْتَلِفَةٍ.

## (၅) الْمُشْتَرَكُ (ဘာသာတူအနက်ကွဲပုဒ်)

**لفظ** တစ်ခု၏ အဓိပ္ပါယ်အမြောက်အမြားရှိပြီး အဓိပ္ပါယ်အားလုံးတို့သည် ထို **لفظ** ၏ သီးခြားစီသတ်မှတ်ခံ အဓိပ္ပါယ်များဖြစ်ပါက ထို **لفظ** ကို **المشترك** ဟုခေါ်သည်။

ဥပမာ။ ။ لَفْظُ الْقُرْءِ الْمَوْضُوْعُ للطُّهْرِ وَالْحَيْضِ
لَفْظُ الْعَيْنِ الْمَوْضُوْع للشَّمْسِ وَالْفِضَّةِ وَلِعَيْنِ الْمَاءِ

ရှင်းလင်းချက်။ ။ الـــقـــرء သည် طهــــر နှင့် حيـــض အဓိပ္ပါယ် နှစ်မျိုးစလုံးအတွက်အသုံးပြုသော်လည်း သတ်မှတ်သုံးစွဲသည့်နေရာ မတူပါ။ العين ဟူသော စာလုံးသည် နေ၊ မျက်စိ၊ ငွေ၊ စမ်းချောင်း စသည့် အဓိပ္ပါယ်များအတွက် လာရှိပြီး အဓိပ္ပါယ်တစ်ခုတိုင်းအတွက် ထိုစာလုံးကို သီးခြားစီ သတ်မှတ်သုံးစွဲထားသည်။

မေးခွန်း။ ။ ဤအမျိုးအစားကို အဘယ်ကြောင့် اَلْمُشْتَرَكُ ဟု ခေါ်ရပါသနည်း။

အဖြေ။ ။ المشترك ဟု ခေါ်ဆိုရခြင်းမှာ အဓိပ္ပါယ် အမြောက်အမြားသည် ထိုစာလုံးတွင် اشتـــــراك (ခ) အတူပါဝင်နေသည့် အတွက်ကြောင့် ဖြစ်သည်။

## المنقول:هُوَ الَّذِيْ نُقِلَ مِنْ مَعْنَاهُ اللُّغَوِيِّ إِلٰى مَعْنٰى آخَر

## (၆) المنقول (ရွှေ့ပြောင်းသုံးစွဲခံပုဒ်)

အဓိပ္ပါယ်တစ်မျိုးထက်ပို၍ရှိသော ပုဒ်တစ်ခုခုကို ဘာသာစကားဆိုင်ရာအဓိပ္ပါယ်မှ အခြားအဓိပ္ပါယ်တစ်ခုခုဘက်သို့ ရွှေ့ပြောင်းသုံးစွဲထားသောအခါမျိုးတွင် ထိုအပြောင်းခံပုဒ်ကို المنقول ဟု ခေါ်သည်။ ဥပမာ။

**لَفْظُ الصَّلاَةِ فَإِنَّ مَعْنَاهُ اللُّغَوِيَّ الدُّعَاءُ**
**ثُمَّ نُقِلَ شَرْعًا إِلٰى الصَّلاَةِ الْمَعْرُوْفَة**

### المنقول (၃)မျိုးရှိပါသည်။

(၁) الشـــــرعــــي (တရားတော်မြတ်ဆိုင်ရာ ဝေါဟာရအဖြစ် အနက်ပြောင်းလဲသွားသော ပုဒ်)

(၂) العرفي (လူအများ၏အသုံးအနှုန်းကြောင့် အနက်ပြောင်းသွားသောပုဒ်)

(၃) الاصـــــطـــــلاحــــــى (ပညာရပ်ဆိုင်ရာဝေါဟာရအဖြစ် အနက်ပြောင်းလဲသွားသောပုဒ်)

(၁) المنقول الشرعى ➢ لفظ အား တရားတော်မြတ်၌ ဘာသာစကား ဆိုင်ရာအဓိပ္ပါယ်မှ အခြားအဓိပ္ပါယ်တစ်ခုခုသို့ ပြောင်းလဲ၍ သုံးစွဲခြင်း။

ဥပမာ။ ။ الصلاة ဟူသောစာလုံး၏ ဘာသာစကားဆိုင်ရာ အဓိပ္ပါယ်မှာ ဒိုအာဖြစ်သည်။ သို့သော် တရားတော်မြတ်၌ နမာဇ်ဝတ်ပြုမှု ဟူသော အဓိပ္ပါယ်သို့ပြောင်းလဲသုံးစွဲထားသည်။

(၂) المنقول العرفي ➢ لفظ တစ်ခုခုသည် လူအများအခေါ်အဝေါ်၌ ဘာသာစကားဆိုင်ရာ အဓိပ္ပါယ်မှ အခြားအဓိပ္ပါယ်တစ်ခုခုသို့ ပြောင်းလဲသွားခြင်း။

ဥပမာ။ ။ دابة ဟူသောစာလုံး၏ ဘာသာစကားဆိုင်ရာ အဓိပ္ပါယ်မှာ တွားသွားသတ္တဝါများအတွက်ဖြစ်သော်လည်း နောက်ပိုင်းတွင် လူအများက ခြေလေးချောင်းသတ္တဝါများဖြစ်သော ကျွဲ၊ နွား၊ ကုလားအုပ်၊ မြင်း စသည့် သတ္တဝါများအတွက် သတ်မှတ်ခေါ်ဝေါ်သုံးစွဲလာကြသည်။

(၃) المنقول الاصطلاحي ➢ ပညာရပ်များကို ပြုစုပျိုးထောင်ခဲ့သော ပညာရှင်တို့သည် မိမိတို့နှင့်သက်ဆိုင်သော ပညာရပ်အသီးသီးတို့၏ အခေါ်အဝေါ် (ဝါ) ဝေါဟာရများတွင် لفظ အား ၎င်း၏ ဘာသာစကားဆိုင်ရာ အဓိပ္ပါယ်မှ အခြားအဓိပ္ပါယ်တစ်ခုခုသို့ ပြောင်းလဲ၍သုံးစွဲခြင်း။

ဥပမာ။ ။ فعل ဟူသော စာလုံး၏ ဘာသာစကားဆိုင်ရာ အဓိပ္ပါယ်မှာ عمل တိုင်းအတွက် ဖြစ်သည်။ نحو ပညာရှင်များက فعل ဟူသောစာလုံးကို ကိုယ်ပိုင် အဓိပ္ပါယ်ဖြင့် တစ်ကိုယ်ရည်ရပ်တည်နိုင်ပြီး အချိန်ကာလ(၃)ခုအနက် တစ်ခုခုပါဝင်သော لفظ အတွက် သတ်မှတ်ခေါ်ဝေါ် သုံးစွဲကြသည်။

## الحقيقة: هُوَ اللَّفْظُ الْمُسْتَعْمَلُ فِيْ مَعْنَاهُ الْمَوْضُوْعِ لَه

(၇) الحقيقة ➤ لفظ တစ်ခုကို ၎င်း၏သတ်မှတ်ခံအဓိပ္ပါယ်၌သာ သုံးစွဲသည့်အခါမျိုးတွင် ထို لفظ အား الحقيقة ဟုခေါ်သည်။ ထိုသို့သုံးစွဲရာ၌ ရည်ရွယ်ချက်ပါရှိရန် အရေးမကြီးပါ။

ဥပမာ။ لَفْظُ الْأَسَدِ إِذَا اسْتُعْمِلَ فِيْ الْحَيْوَانِ الْمَعْرُوْفِ။

ရှင်းလင်းချက်။ أَسـد ဟူသောစာလုံး၏ သတ်မှတ်ခံအဓိပ္ပါယ်မှာ ((ခြင်္သေ့))ဖြစ်သည်။ ထိုခြင်္သေ့ဟူသော အဓိပ္ပါယ်အတွက် သုံးစွဲရာ၌ ရည်ရွယ်ချက်ပါရန် မလိုပါ။

## المجاز: هُوَ اللَّفْظُ الْمُسْتَعْمَلُ فِيْ غَيْرِ الْمَعْنٰى الْمَوْضُوْعِ لَه

(၈) المجاز ➤ لفظ ကို သတ်မှတ်ခံအဓိပ္ပါယ်အတွက် မဟုတ်ဘဲ အခြားအဓိပ္ပါယ်တစ်ခုအတွက် သုံးစွဲလိုက်ပါက ထို لفظ အား المجاز ဟုခေါ်သည်။ ထိုသို့ သုံးစွဲရာ၌ ရည်ရွယ်ချက်ပါမှသာ لفظ သည် အခြား အဓိပ္ပါယ်ကို ဖေါ်ဆောင်နိုင်မည်ဖြစ်သည်။

ဥပမာ။ لَفْظُ الْأَسَدِ إِذَا اسْتُعْمِلَ فِىْ الرَّجُلِ الشُّجَاعِ ။

ရှင်းလင်းချက်။ أسـد ဟူသော စာလုံး၏ သတ်မှတ်ခံအဓိပ္ပါယ်သည် ခြင်္သေ့ဖြစ်ပြီး၊ ထိုစာလုံးကို ရဲရင့်သူအမျိုးသားဟူသော အဓိပ္ပါယ်ကို ဖေါ်ဆောင်ရန် သုံးစွဲလိုက်သည့်အခါ ထို لفظ အား المجاز ဟုခေါ်သည်။

اللفظ الموضوع
مفرد
مركب
مركب تام
مركب غير تام
خبر
إنشاء
مركب تقييدي
مركب غير تقييدي
اسم
فعل
أداة
واحد المعنى
كثير المعنى
جزئى
كلى
متواطى
مشكك
مشترك
منقول
حقيقة
مجاز
منقول شرعى
منقول عرفى
منقول اصطلاحى

## လေ့ကျင့်ခန်း(၆)

၁။ **مفرد** ၏ အမျိုးအစားများကို ဖော်ပြပြီး အဓိပ္ပါယ်တစ်ခုသာ ဖော်ဆောင်သော **مفرد** ၏ အမျိုးအစားများကိုလည်း ဖော်ပြပါ။

၂။ **المتواطئ** ၊ **المشترك** ၊ **الحقيقة** နှင့် **المجاز** တို့၏ ဖွင့်ဆိုချက်ကို ရေးပါ။

၃။ **المشترك** နှင့် **المنقول** တို့၏ ဖွင့်ဆိုချက်ကို ရေးပြီး **المنقول**၏ အမျိုးအစား (၃)မျိုးကိုလည်း ဖော်ပြပါ။

## المركّب ၏ အမျိုးအစားများ

(၁) تَامٌّ (ဝါကျ)

(၂) نَاقِصٌ (သာမန် စကားစု)

### اَلْمُرَكَّبُ التَّامُّ : هُوَ الَّذِيْ يَصِحُّ عَلَيْهِ سُكُوْتُ الْمُتَكَلِّمِ

**المركب التام** (ဝါကျ) ဆိုသည်မှာ ပြောဆိုသူ၏ စကားပြီးဆုံးသည်နှင့် နားထောင်သူသည် ထိုစကားအား သိရှိနားလည်နိုင်သော စကားစုမျိုးကို ခေါ်သည်။

ဥပမာ။ ။ **زيد قائم ، ولاتضرب زيدا**

ဇိုက် မတ်တတ်ရပ်နေသည်။ ဇိုက်ကို မရိုက်ပါနှင့်။

အထက်ဖော်ပြပါ စကားအား သိရှိနားလည်နိုင်ရန် အခြားမည်သည့် စကားလုံးမျှ ထက်မံဖြည့်စွက် ပြောဆိုရန် မလိုအပ်တော့ပါ။

المركب الناقص: هُوَ الذِّيْ لَايَصِحُّ عَلَيْهِ سُكُوْتُ الْمُتَكَلِّمِ

المركب الناقص ဆိုသည်မှာ المركب التام ကဲ့သို့ မဟုတ်ဘဲ ပြောဆိုသူ၏စကား ပြီးဆုံးသွားသည့်နောက် ထိုစကားစုတွင် အခြားစကားလုံးများ ထပ်မံ မဖြည့်စွက်သ၍ နားထောင်သူသည် ထိုစကားစုအား ပြည့်ပြည့်ဝဝ သိရှိနားလည်နိုင်မည် မဟုတ်ပါ။

ဥပမာ။ ။دار زيد، قلم عمرو

ဇိုက်၏ အိမ်၊ အမ်ရ်၏ ကလောင် ဟုပြောဆိုရုံဖြင့် စကားမပြည့်စုံပါ။

المركب التام (ဝါကျ) နှစ်မျိုးရှိပါသည်။

ဝါကျသည် အဖြစ်အပျက်များကို ထုတ်ဖော်ပြောကြားခြင်း၊ တွေ့ကြုံရသောအခြေအနေ အရာဝတ္တုတို့နှင့် ပတ်သက်၍ ခံစားတုံ့ပြန်ပုံကို ထုတ်ဖေါ်ခြင်း၊ အခြားသူများအား ပန်ကြားခြင်း၊ ဩဇာပေးခြင်း စသည့်ပုံစံများကို အခြေခံလျက် နှစ်မျိုးခွဲထွက်ပါသည်။ ၎င်းတို့မှာ ---

(၁) خبر (၂) إنشاء တို့ဖြစ်ပါသည်။

(၁) ထပ်မံဖြည့်စွက်ရန်မလိုဘဲ (ပြည့်ပြည့်ဝဝ နားလည်၍ ရနိုင်သောစကားဖြစ်ခြင်းနှင့်အတူ) မှားမှန်တန်ဖိုးရှိသော စကားမျိုးကို خبر ဟုခေါ်သည်။

ဥပမာ။ ။بكر عاقل ဘက်ရ်သည် အသိဉာဏ်ရှင်ဖြစ်သည်။

(၂) ထပ်မံဖြည့်စွက်ရန်မလိုဘဲ (ပြည့်ပြည့်ဝဝ နားလည်၍ ရနိုင်သောစကားဖြစ်သော်လည်း) ထိုစကားနှင့်ပတ်သက်၍ မှန်သည် (သို့) မှားသည်ဟု ဆုံးဖြတ်ချက်ပေး၍ မရနိုင်သောစကားမျိုးကို إنشاء ဟုခေါ်သည်။

ဥပမာ။ ။ اجلس، ولاتشرب အသင်မသောက်နှင့်။ အသင်ထိုင်ပါ။

**المركب الناقص** သာမန်စကားစု (၂) မျိုးရှိသည်။

(၁) **تقييد ي** (ကန့်သတ်ချက် ပါဝင်သော စကားစု)

(၂) **غير تقييدي** (ကန့်သတ်ချက်မဲ့ စကားစု)

(၁) **تــقيــيــدي** ➢ စကားစု၏ ဒုတိယအစိတ်အပိုင်းသည် ကန့်သတ်ချက် ဖြစ်ပြီး၊ ပထမ အစိတ်အပိုင်းသည် ကန့်သတ်ခံ ဖြစ်သောပုံစံမျိုးဖြစ်သည်။

ဥပမာ။ ။**غلام زيد**، **رسول الله**

ရှင်းလင်းချက်။ ။ ဖော်ပြပါ ဥပမာတွင် **غلام** သည် ကန့်သတ်ခံဖြစ်ပြီး၊ **زيــــــــــد** သည် ကန့်သတ်ချက် ဖြစ်ပါသည်။ ကျွန်သည် အခြားသူ၏ ကျွန်မဟုတ်ဘဲ **زيـد** ၏ ကျွန်သာဖြစ်ကြောင်း **قيـد** လုပ်ထားသည်။ **زيـد** ဟူသော စာလုံးမပါပါက **زيد** နှင့်သာ သက်ဆိုင်သည်ကို မသိနိုင်ပါ။

**الــمــركــب التــقييــد ي** ကန့်သတ်ချက်ပါသောစကားစု (၂)မျိုး ရှိသည်။

(၁) **المركب الإضافى** (ပတ်သက်မှု၊ ပိုင်ဆိုင်မှုပြ စကားစု)➢

**قلم عمرو / دار زيد**

(၂) **المركب التوصيفى** (စရိုက်၊ လက္ခဏာပြ စကားစု) ➢

**الحيوان الناطق**

(၂) **غيــر التقييدى** ➢စကားစု၏ ဒုတိယအစိတ်အပိုင်းသည် ပထမအစိတ် အပိုင်းအတွက် ကန့်သတ်ချက် မဖြစ်သည့် ပုံစံမျိုး။

ဥပမာ။ ။**فى الدار**، **بزيد**

(ပထမ **جـزء** သည် **فـى** ဖြစ်ပြီး ၊ ဒုတိယ **جـزء** သည် **الدار** ဖြစ် သည်။ )

## လေ့ကျင့်ခန်း (၇)

၁။ **المركب التام** နှင့် **المركب الناقص** တို့ကို ဥပမာနှင့် တကွ ဖွင့်ဆို ပြပါ။

၂။ **المركب التام** နှင့် **المركب الناقص** ၏ အမျိုးအစား မည်မျှရှိ သနည်း။

၃။ **المركب التام** နှင့် အမျိုးအစားများအကြား ကွာခြားချက်ကို အသင် နားလည်ထားသည့်အတိုင်း ရေးသားပါ။

# التصورات ၏ အခန်းကဏ္ဍ

## ဂုဏ်တူပြုစုခြင်းနှင့် အဓိပ္ပါယ်သတ်မှတ်ခြင်း

ဂုဏ်တူပြုစုခြင်းနှင့် အဓိပ္ပါယ်သတ်မှတ်ခြင်းကို **منطق** ပညာရပ်တွင် အလေးထားသင်ယူရပါသည်။ အကြောင်းမှာ ခြုံယူယုတ္တိဗေဒတွင် အတွေ့ အကြုံဖြင့်ရသော သီးခြားအဖြစ်အပျက်တို့နှင့် စပ်လျဉ်းသည့် အသိပညာမှ တဆင့် ဉာဏ်စခန်းဖြစ်သော ယေဘုယျအသိပညာအဆင့်သို့ တက်လမ်း ကြရာ၌ ကြည့်ရှုလေ့လာမှုတစ်ခုတည်း၌ အခြေစိုက်ရုံမျှဖြင့် မပြီးသေးပေ။ ဂုဏ်တူပြုစုခြင်း နှင့် အဓိပ္ပါယ်သတ်မှတ်ခြင်းတို့ သည်လည်း တွေးဆချက် များဖော်ထုတ်ရာ၌ အရေးပါသော အခန်းက ပါကြသေးသည်။

တွေးခေါ်ပညာရှင်တို့ထံတွင် သဘာဝလောက၌ တည်ရှိနေကြသော ရုပ်ဝတ္ထုပစ္စည်းတို့သည် သဘာဝဂုဏ်တူစု နယ်၌ပါနေကြသည်။ သဘောမှာ ငါးတို့သည် သဘာဝအလိုအားဖြင့် ကျောရိုးရှိသော သတ္တဝါဟူသည့် ဂုဏ်တူ စုတွင် ပါကြ၏။ တဖန်ကျောရိုးသတ္တဝါများသည် သက်ရှိဟူသော ဂုဏ်တူစု တွင်ပါသည်ဟု ဂုဏ်တူရာ(သို့မဟုတ်) သဘောလက္ခဏာတူရာ ဝတ္ထုပစ္စည်း

များကို အစုအသင်း ဖွဲ့ကြည့်ခြင်းမျိုး ဖြစ်သည်။

ဂုဏ်တူစုဆိုသည်ကား တခြားမဟုတ်။ ဂုဏ်ချင်း၊ သဘောချင်း၊ လက္ခဏာချင်း တူသောအရာဝတ္ထုတို့ကို တစုတပေါင်းတည်း သင်းစုပြုခြင်း သဘောပင်ဖြစ်သည်။

ကျောင်းသားသည် ဂုဏ်တူစုဖြစ်သည်။ ယင်းဂုဏ်တူစုမှတဆင့် ဆေးကျောင်းသား၊ ဝိဇ္ဇာသိပ္ပံကျောင်းသား၊ ပထမနှစ်ကျောင်းသား၊ ဒုတိယနှစ်ကျောင်းသား၊ ဟဒီးစ်တန်းကျောင်းသား စသည်ဖြင့် ဂုဏ်တူရာရွေးချယ်၍ အသင်းအစု ဖွဲ့ကြည့်ပြန်လျှင်လည်း ဂုဏ်တူစုများစွာကို ရနိုင်သည်။

သဘာဝကိုစူးစမ်းကြရာ၌ သိပ္ပံပညာလေ့လာမှုမှန်သမျှတွင် လေ့လာစူးစမ်းမှုနယ်ပယ်အလိုက် ဂုဏ်တူပြုစုခြင်းသဘောကို အသုံးပြုကြသည်။ ယင်းသို့ ဂုဏ်တူပြုစုခြင်းမရှိလျှင် သိပ္ပံပညာအနေဖြင့် မိမိတို့လေ့လာလိုသည့် အကြောင်းအရာ အဖြစ်အပျက်ဝတ္ထုပစ္စည်းတို့ကို ခွဲခြားသတ်မှတ်၍ရနိုင်မည် မဟုတ်ပေ။ အမှန်မှာ ပညာရပ်တိုင်းကိုလေ့လာရာတွင် သူ့အမျိုးနှင့်သူ ဂုဏ်တူရာကိုစုပြီး ခွဲခြားလေ့လာရပါသည်။ စနစ်တကျ လေ့လာရှာဖွေပြီး အချက်အလက်များ တစုံတပုံကြီးရသောအခါ ယင်းတို့ကို အရောရော အနှောနှော ထားပြီး စဉ်းစား၍မရနိုင်ပေ။ စနစ်တကျ ဂုဏ်တူစုခွဲခြားပြီး ဂုဏ်တူရာမျိုးတူရာကို သူ့အစုနှင့်သူ သတ်မှတ်ပိုင်းခြားမှသာ ရှင်းလင်းတိကျသော အသိပညာမျိုးရနိုင်မည်။ ဥပမာအနေဖြင့် ဘူမိဗေဒဘာသာရပ် အနေနှင့် ကျောက်ခဲများကို လေ့လာသောအခါ သဲကျောက်၊ ထုံးကျောက်၊ မီးသင့်ကျောက်၊ သလင်းကျောက် စသဖြင့် သူ့အမျိုးနှင့်သူ ဂုဏ်တူရာကိုစုပြီး ခွဲခြားလေ့လာရသည်။

ဂုဏ်တူပြုစုကြရာ၌ အမျိုးမျိုးသော ထူးခြားသည့် သဘောလက္ခဏာ

တို့ကို အခြေခံထားပြီး သူ့အမျိုးအစားလိုက် ဂုဏ်တူရာစု၍ ဂုဏ်တူပြုစုရသောကြောင့် ဂုဏ်တူစု ပြုပုံပြုနည်းအမျိုးမျိုး ကွဲပြားကြပြန်သည်။ သဘာဝတစ်ခုတည်းကိုယူ၍ ဂုဏ်တူပြုစုခြင်းထက် အခြားသဘာဝစရိုက်များကို အခြေခံ၍ ဂုဏ်တူပြုစုခြင်းက ပို၍ အကျိုးရှိနိုင်ပါသည်။

အချို့သော ဂုဏ်တူပြုစုမှုများ၌ မည်သည့်အချက်အလက်ကိုမူတည်၍ ဂုဏ်တူပြုစုရမည်ဟူသော ဆုံးဖြတ်ချက်ပေးရမည့် ကိစ္စမျိုးပါသည်။ ယင်းကိစ္စသည် တစုံတရာသော ဝတ္ထုပစ္စည်းတို့ကို ဂုဏ်တူပြုစုသော် ယင်းပစ္စည်းတို့၌ အဘယ်မည်သော အထူးခြားဆုံးသော သဘောလက္ခဏာတရပ်ရှိသည်၊ ယင်းလက္ခဏာသည် ယင်းဝတ္ထုပစ္စည်းတို့၏ သဘောတခုလုံးကို နားလည်စေနိုင်သည့် သဲလွန်စဖြစ်မည်ဟူ၍ အတိအကျ ရွေးချယ်သတ်မှတ်ခြင်းပင်ဖြစ်သည်။ ထိုသို့ သတ်မှတ်ပြီးမှ ယင်းသဘောကို အခြေခံပြီး ဂုဏ်တူစုပြုရာသည်။

ပုံစံအားဖြင့် လူနှင့်အခြားသတ္တဝါများကို မည်သို့သော ဂုဏ်သတ္တိအပေါ်မူတည်၍ ဂုဏ်တူစုခွဲရမည်နည်း။ အသိဉာဏ်ရှိသော သတ္တဝါသည်လူဖြစ်သည်ဟု ဆိုမည်လော။ ဂုဏ်တစ်ခုကိုစွဲ၍ဆိုပါက ဦးစွာ မိမိဂုဏ်တူပြုစုလိုရာ အရာဝတ္ထု၏ သဘောသဘာဝကို သေချာလေ့လာပြီးမှ အဓိပ္ပါယ်သတ်မှတ်ရမည်။ လူ၏ သဘောသဘာဝကို မသိဘဲလျှက် လူ၏ အဓိပ္ပါယ်သတ်မှတ်ရန်၊ ဂုဏ်တူပြုစုရန် မဖြစ်နိုင်ပါ။ ထို့ကြောင့် ဂုဏ်တူမပြုစုမီတိတိကျကျ အဓိပ္ပါယ်သတ်မှတ်မှုသည် အဓိကကျ၍ အလွန်လည်း အရေးကြီးသည်။ ယခု ဂုဏ်တူပြုစုခြင်းဆိုင်ရာ သိမှတ်ဖွယ်ရာများကို ဖေါ်ပြမည်။ ရှေ့လာမည့်အခန်းတွင် အဓိပ္ပါယ်သတ်မှတ်မှုဆိုင်ရာ သိမှတ်ဖွယ်ရာများကို ဆက်လက်ဖေါ်ပြသွားမည် ဖြစ်ပါသည်။

အဓိပ္ပါယ်ရှိသော ပုဒ် နှစ်မျိုးရှိသည်။

(၁) **الجزئي** (ဇေဝိဒပုဒ်/တစ်ဦးဆိုင်ပုဒ်/ မျိုးစိတ်ငယ်)

(၂) **الكلي** (ယေဘုယျပုဒ်/အများဆိုင်ပုဒ်/မျိုးစုကြီး)

(၁) အများ၏ ပါဝင်ရောယှက်မှု လုံးဝမရှိဘဲ တစ်ခု၊ တစ်ကောင်၊ တစ်ယောက်နှင့်သာ သက်ဆိုင်ပါက **جزئى** ဟုသတ်မှတ်ရပါသည်။

ဥပမာ။ ။ **زيد ،عليٌّ**

(၂) သီးသန့် တစ်ခု၊ တစ်ကောင်၊ တစ်ယောက်နှင့်သာ သက်ဆိုင်နေခြင်း မဟုတ်ဘဲ အများနှင့် သက်ဆိုင်ပါက **كلى** ဟုသတ်မှတ်ရပါသည်။

ဥပမာ။ ။ **إنسان، حيوان**

**الجزئي** (၂)မျိုးရှိသည်။

(၁) **حقيقي** (၂) **إضافي**

(၁) **الجزئي الحقيقي** (ဓမ္မစစ်သဘောအရဖြစ်သော ဇေဝိဒပုဒ်)

ရှင်းလင်းချက်။ ။ ပုဒ်တစ်ခုကို သူ၏ဇစ်မြစ်သဘောအရ တစ်ခု၊ တစ်ကောင်၊ တစ်ယောက်နှင့်သာ သက်ဆိုင်လျှင် **جـزئى** (မျိုးစိတ်)ဟု သတ်မှတ်ရပါသည်။ ထိုနည်းအတိုင်း အခြားမည်သည့်မျိုးစုတစ်ခုခုနှင့်မဆို ယှဉ်ထိုးကြည့်သောအခါ၌လည်း ထိုပုဒ်သည် တစ်ခု၊ တစ်ကောင်၊ တစ်ယောက်နှင့်သာ သက်ဆိုင်လျှင် ထိုပုဒ်သည် မျိုးစုမဖြစ်နိုင်ဘဲ **جــــزئـــى** (မျိုးစိတ်) ဖြစ်နိုင်သောကြောင့် ထိုပုဒ်ကို **الـجـزئـى الـحـقيقى** (မျိုးစိတ်အစစ်အမှန်) သတ်မှတ်ရပါသည်။

ဥပမာ။ ။ **زيــــد** ဟူသောအမည်သည် အမည်ပေးခြင်းခံရသော သူအတွက်သာ ဖြစ်သောကြောင့် ဤအမည်သည် **زيــد** နှင့်သာ သက်ဆိုင်

သည်။ (အခြားသူနှင့် မသက်ဆိုင်ပါ။) ထို့ပြင် **زيد** အား **إنسان** ၊ **حيوان** ၊ **الـجسـم الـنـامـى** စသည့် မျိုးစုကြီးများအနက်မှ မည်သည့်မျိုးစုနှင့်မဆို ယှဉ်ထိုးကြည့်လိုက်ပါက **زيـد** အား **جــزئـى** (မျိုးစိတ်) ဟုသာ သတ်မှတ် ရပေမည်။ အကြောင်းမှာ **زيـد** နှင့် ယှဉ်ထိုးသော အရာဝတ္ထုတို့၌ အများ၏ ပါဝင်ရောယှက်မှုသည် အရေအတွက်အရ **زيــــد** ထက် ပိုနေသောကြောင့် **زيد** အတွက် မျိုးစုသာ ဖြစ်နိုင်ပြီး မျိုးစိတ်မဖြစ်နိုင်ပါ။

(၂) **الجزئي الإضافي** (ယှဉ်ထိုးခြင်းကြောင့် မျိုးစိတ်ဖြစ်သွားသောပုဒ်) ရှင်းလင်းချက်။ ။ **كــلــى** (ယေဘုယျပုဒ်/မျိုးစု) များသည် ဇစ်မြစ်သဘောအရ အများနှင့် သက်ဆိုင်သောကြောင့် ၎င်းတို့ကို **جــــــزئـــــي** (ဧကဝိဒပုဒ်/မျိုးစိတ်)ဟု မခေါ်ဆိုနိုင်ပါ။

သို့သော် မျိုးစုများသည် အရေအတွက် အနည်းအများအပေါ် မူတည်၍ မျိုးစုကြီး၊ မျိုးစုငယ် စသဖြင့် အချင်းချင်း တစ်ခုနှင့်တစ်ခု အဆင့်အတန်း ကွဲကြပါသည်။ မျိုးစုတိုင်းကို ၎င်းထက်ကြီးသော မျိုးစုနှင့်ယှဉ်လျှင် မျိုးစိတ် ဟု သာ သတ်မှတ်ရပါသည်။ ထို့ကြောင့် မျိုးစုတစ်ခုသည် တပြိုင်တည်း မျိုးစုနှင့် မျိုးစိတ် နှစ်မျိုးလုံးဖြစ်နိုင်ပါသည်။ (**إضـــــافة** ၏ အဓိပ္ပါယ်မှာ ယှဉ်ထိုးကြည့်ခြင်းဖြစ်သည်။ ယှဉ်ထိုးမှုမပြုပါက ဤအမျိုးကို မျိုးစိတ်ဟု မသတ်မှတ်ရဘဲ မျိုးစုဟုသာ သတ်မှတ်ရပါသည်။ )

ဥပမာ။ ။ **إنسان** (လူသား)

လူသားသည် ဂုဏ်တူအမျိုးနွယ်ဝင် အမြောက်အများရှိသောကြောင့် မျိုးစုကြီး တစ်ခုဖြစ်ပါသည်။ သို့သော်လည်း ထိုလူသားကို ၎င်းထက်ပို၍ ကျယ်ပြန့်သော (**حيــــوان**) သတ္တဝါဟူသော မျိုးစုကြီးနှင့် ယှဉ်လိုက်သည့် အခါ လူသားသည် အလိုအလျောက် မျိုးစိတ်ဟု သတ်မှတ်ခံရမည်သာ ဖြစ်သည်။

(١) جوهر (المثال : كل شئ) (كلى فقط)

(٢) جسم ထုထည်ရှိသောအရာတိုင်း (المثال : حجر، شجر، إنسان)
(كلى باعتبار ماتحته,جزئى باعتبارما فوقه)

(٣) الجسم النامى ဖွံ့ဖြိုးသော ထုထည် (المثال : شجر، إنسان ، فرس) (كلى باعتبار ماتحته,جزئى باعتبارما فوقه)

(٤) الحيوان သက်ရှိ သတ္တဝါအားလုံး (المثال: فرس، جاموس، إنسان)
(كلى باعتبار ماتحته,جزئى باعتبارما فوقه)

(٥) الحيوان الناطق ပြောနိုင်စွမ်းရှိသော သတ္တဝါ (المثال : إنسان)
(كلى باعتبار ماتحته ، جزئى باعتبارما فوقه)

(٦) زيد ,عمر , بكر (جزئى فقط )

ဖေါ်ပြပါ ဇယား၏ နံပါတ်စဉ်(၁)၌ တည်ရှိသော جوهر သည် မျိုးစုသာ ဖြစ်နိုင်သည်။ မျိုးစိတ်မဖြစ်နိုင်ပါ။ (ထို့ကြောင့်နံပါတ်စဉ်(၁)ကို الكلى الحقيقى ဟုသတ်မှတ်ရပေမည်။)

ဤနည်းအတိုင်း အောက်ဆုံးရှိ နံပါတ်စဉ်(၆) ၌ တည်ရှိသော زيد ، عمرو နှင့် بكر တို့သည် မျိုးစိတ်သာဖြစ်နိုင်သည်။ မျိုးစုမဖြစ်နိုင်ပါ။ (ထို့ကြောင့် နံပါတ်စဉ်(၆)ကို الجزئى الحقيقى ဟုသတ်မှတ်ရပေမည်။)

သို့သော် နံပါတ်စဉ်(၂) မှ (၅)အထိရှိသောအရာတို့သည် တစ်ပြိုင်တည်း မျိုးစုနှင့် မျိုးစိတ် နှစ်မျိုးလုံးဖြစ်နိုင်သည်။ ၎င်းတို့အနက်မှ တစ်ခုတိုင်းကို မိမိထက်ပို၍ ကျယ်ပြန့်သော အထက်ရှိမျိုးစုကြီးတစ်ခုခုနှင့် ယှဉ်လိုက်သည့်အခါ မျိုးစိတ်ဟု သတ်မှတ်နိုင်သလို၊ အောက်ရှိမိမိထက်ပို၍ သေးငယ်သော မည်သည့်မျိုးစု (သို့မဟုတ်) မျိုးစိတ် နှင့် ယှဉ်လိုက်သည့်အခါ မျိုးစုဟု သတ်မှတ်နိုင်ပါသည်။ (ထို့ကြောင့် အမှတ်စဉ် (၂)မှ (၅)၌ ပါဝင်သောအရာတို့အား الجزئي الإضافى ဟုသတ်မှတ်၍ ခေါ်ဆိုနိုင်သည်။)

## كلي (ယေဘုယျပုဒ်) နှစ်ခုအကြား ဆက်သွယ်ချက်

كـــلـــي နှစ်ခုကို အချင်းချင်း ယှဉ်ထိုးကြည့်သောအခါ ဆက်နွယ်မှု (၄)မျိုး ဖြစ်ပေါ်လာသည်။

(၁) التساوى (တူညီ ဆက်နွယ်မှု)

(၂) التباين (ဆန့်ကျင် ဆက်နွယ်မှု)

(၃) عـمـوم وخـصـوص مـطـلق (မျိုးစု နှင့် မျိုးစိတ်တို့၏ ပုံသေ ဆက်နွယ်မှု )

(၄) عـمـوم وخـصـوص من وجه (မျိုးစုနှင့် မျိုးစိတ်တို့၏ ပြန်လှန် ဆက်နွယ်မှု)

### (၁) التساوى (တူညီ ဆက်နွယ်မှု)

ဥပမာ။ ။ (كـلـى) إنسان နှင့် (كـلـى) نـاطق ၏ အကြားရှိ ဆက်နွယ်မှု။

(မျိုးစုနှစ်ခုအား ယှဉ်ထိုးကြည့်သောအခါ) إنسان နှင့် نـاطق နှစ်ခု အနက်မှ မျိုးစုတစ်ခုတိုင်းသည် အခြားတစ်ခုတွင် ပါဝင်သော မျိုးစိတ်ငယ် အားလုံးနှင့် (အပိုအလိုမရှိ) တူညီနေသည်။

ရှင်းလင်းချက်။ ။ လူသားအားလုံးသည် စကားတတ်သူ ဖြစ်သည့်အတိုင်း ناطق စကားတတ်သူအားလုံးသည် လူသားဖြစ်ပါသည်။

(၂) التباين (ဆန့်ကျင်ဆက်နွယ်မှု)

ဥပမာ။ ။ (كــلـى) إنســان (كــلـى) နှင့် فـرس ၏ အကြားရှိ ဆက်နွယ်မှု။

(မျိုးစုနှစ်ခုအား ယှဉ်ထိုးကြည့်သောအခါ) إنســان နှင့် فـرس တို့ အနက်မှ မျိုးစုတစ်ခုတိုင်းသည် အခြားတစ်ခုတွင် ပါဝင်သော မျိုးစိတ်ငယ် အားလုံးနှင့် ဆန့်ကျင်ဘက်ဖြစ်နေသည်။

ရှင်းလင်းချက်။ ။ إنســان (လူသား)များ၌ فرس (မြင်း)တစ်ကောင်မျှ မရှိသည့်အတိုင်း فــرس (မြင်း) များ၌ إنســـــان (လူသား) တစ်ယောက်မျှ မရှိပါ။

(၃) عـموم وخصوص مطلق (မျိုးစုနှင့်မျိုးစိတ်တို့၏ ပုံသေ ဆက်နွယ်ချက်)

ဥပမာ။ ။ (كـلـى) حيـوان (كـلـى) နှင့် إنسـان ၏ အကြားရှိ ဆက်နွယ်ချက်။

(မျိုးစုနှစ်ခုအား ယှဉ်ထိုးကြည့်သောအခါ) حيـــــوان သည် မျိုးစု၏ နေရာတွင် ကျရောက်ပြီး ၊ إنســـــان သည် မျိုးစိတ်၏နေရာတွင် ကျရောက် နေပါသည်။ အပြောင်းအလဲ မဖြစ်နိုင်ပါ။

ရှင်းလင်းချက်။ ။ လူသားတိုင်းသည် သတ္တဝါဖြစ်သော်လည်း၊ သတ္တဝါ တိုင်းသည် လူသားမဟုတ်ပါ။ အချို့သော သတ္တဝါများသာ လူသားများ ဖြစ်ကြပါသည်။ ထို့ကြောင့် လူသားဟူသောမျိုးစုကို သတ္တဝါဟူသော မျိုးစုနှင့်ယှဉ်လျှင် လူသားသည် မျိုးစိတ်သာဖြစ်နိုင်ပါသည်။ မျိုးစုမဖြစ်နိုင်ပါ။

(၄) عموم وخصوص من وجه (မျိုးစုနှင့် မျိုးစိတ်တို့၏ ရွေ့ပြောင်းဆက်နွယ်ချက်)

ဥပမာ။ ။ (كلى) حيوان နှင့် (كلى) أبيض အကြားရှိဆက်နွယ်ချက်

မျိုးစုနှစ်ခုအား ယှဉ်ထိုးကြည့်သောအခါ حيوان နှင့် أبيض တို့အနက်မှ တစ်ခုတိုင်းသည် ရှုထောင့်တစ်ခုအရ ကျန်တစ်ခု၏မျိုးစုဖြစ်သော်လည်း၊ အခြား ရှုထောင့်တစ်ခုအရ တစ်ခုတိုင်းသည် ကျန်တစ်ခု၏မျိုးစိတ်ဖြစ်နေသည်။

ရှင်းလင်းချက်။ ။ အချို့သော သတ္တဝါများသည် အဖြူရောင်ဖြစ်ကြသော်လည်း၊ အချို့သည် အဖြူရောင်မဖြစ်ကြပါ။ ဤနည်းအတိုင်း အချို့သောအဖြူရောင်များသည် သတ္တဝါဖြစ်သော်လည်း၊ အချို့အဖြူရောင်များသည် သတ္တဝါများ မဟုတ်ကြပါ။

## လေ့ကျင့်ခန်း (၈)

၁။ ဂုဏ်တူပြုစုခြင်း နှင့် အဓိပ္ပါယ်သတ်မှတ်ခြင်း၏ အရေးပါပုံကို မိမိနားလည်ထားသည့်အတိုင်း ရေးသားပါ။

၂။ الكلي နှင့် الجزئي တို့ကို ဥပမာနှင့်တကွ အဓိပ္ပါယ်ဖွင့်ဆိုပါ။

၃။ الجزء الحقيقي နှင့် الجزء الإضافي တို့ကို ဥပမာနှင့် တကွ အဓိပ္ပါယ်ဖွင့်ဆိုပါ။ ပုဒ်တစ်ခုသည် တချိန်တည်း كلى နှင့် جزئى နှစ်မျိုးလုံးဖြစ်နိုင်၏လော။

၄။ الكلي နှစ်ခုကြား၏ ဆက်သွယ်ချက်မှ التساوي ၏ဆက်သွယ်ချက်ကို ဖော်ပြပါ။

၅။ عموم وخصوص من وجه ၏ ဥပမာများကို ဖော်ပြပါ။

## كلى(ယေဘုယျပုဒ်) တစ်ခု၏ ကိန်းသေ သို့မဟုတ် ကိန်းရှင်ဖြစ်ခြင်း

(၁) ممتنع الأفراد (ကိန်းသေပုဒ်)

(၂) ممكن الأفراد (ကိန်းရှင်ပုဒ်)

(၁) တစ်ခု၊ တစ်ကောင်၊ တစ်ယောက်မျှ မရှိနိုင်သော كلى(ယေဘုယျပုဒ်) အား ممتنع الأفراد (ကိန်းသေယေဘုယျပုဒ်)ဟုခေါ်သည်။

ဥပမာ။ ။ لاشيء ، لاموجود

ရှင်းလင်းချက်။ ။ လက်တွေ့ကျကျ အမှန်တကယ်ရှိသော (သို့မဟုတ်) စဉ်းစားတွေးတော၍ရနိုင်သော အရာတိုင်းကို شيء ဟုခေါ်သည်။ သို့သော် မဖြစ်နိုင်သော၊ မရှိသောအရာများသည်လည်း အမြောက်အမြားရှိပါသည်။ ထိုအရာများကို لاشيء، لاموجود ဟုခေါ်နိုင်ပေသည်။ ဤသို့ဖြင့် မြောက်မြားစွာသော အရာများကို لاشيء ، لاموجود ، لا ممكن ပြောဆိုနိုင်ပါသည်။

(၂) လက်တွေ့ကျကျ အမှန်တကယ် كلى တစ်ခု၏အရေအတွက် အမြောက်အမြားရှိနိုင်ပါက ထို كلى အား ممكن الأفراد ဟုခေါ်သည်။

ဥပမာ။ ။ إنسان، حيوان

ရှင်းလင်းချက်။ ။ လက်တွေ့ကျကျ အမှန်တကယ် ဖြစ်စေ (သို့မဟုတ်) စဉ်းစားတွေးတော၍ ဖြစ်စေ إنسان နှင့် حيوان ၏ အရေအတွက် အမြောက်အများ ရှိနိုင်၊ ဖြစ်နိုင်ပါသည်။

ممكن الأفراد (ကိန်းရှင်ယေဘုယျပုဒ်)သုံးမျိုးရှိသည်။

(١) ليس له فرد واحد فى الخارج

(٢) له فرد واحد فى الخارج

(٣) له أفراد كثيرة فى الخارج

(၁) **ليس له فرد واحد فى الخارج** ➢ (အရေအတွက် အမြောက်အမြား ရှိနိုင်သော်လည်း) လက်တွေ့ကျကျ တစ်ခု၊ တစ်ယောက်၊ တစ်ကောင်မျှ မတွေ့ရသော ယေဘုယျပုဒ်မျိုးဖြစ်ပါသည်။

ဥပမာ။ ။ **عنقاء** - ဖီးနစ်ငှက်

ထိုငှက်သည် ရှေးယခင်က အကောင်ရေ အမြောက်အများ ရှိခဲ့သော်လည်း နဗီတမန်တော်တစ်ပါး၏ ခေတ်၌ ကလေးများကို သုတ်ယူစားသောက်လေ့ ရှိခဲ့သောကြောင့် ယင်းနဗီတမန်တော်၏ကျိန်စာ မိခဲ့ပြီးနောက် မျိုးတုန်းသွားခဲ့သည်။ ထိုငှက်သည် အပြင်လောက၌ အရေအတွက် အမြောက်အမြား ရှိနိုင်သော်လည်း ယခုအခါ၌ တစ်ခု၊တစ်ကောင်၊ တစ်ယောက်မျှ မရှိတော့ပါ။

(၂) **لـه فـرد واحـد فـى الخـارج** ➢ သက်ဆိုင်သူကို လျစ်လျူရှုထားပြီး (အဓိပ္ပါယ်သတ်မှတ်ချက်ပေါ်မူတည်လျှက်) အရေအတွက် အမြောက်အမြားရှိနိုင်ပါသည်။

သို့သော် လက်တွေ့ကျကျ တစ်ခု၊ တစ်ကောင်၊ တစ်ယောက်သာ ရှိမည်။ နောက်ထပ် ရှိနိုင်သေးသော (သို့) နောက်ထပ် အလျဉ်းမရှိနိုင်သော ယေဘုယျပုဒ်မျိုး ဖြစ်ပါသည်။

ဥပမာ။ ။ (၁) **واجب الوجود** ဟူသော ယေဘုယျပုဒ်အတွက် နိစ္စထာဝရ အရှင်မြတ်မှအပ နောက်ထပ်လုံးဝ မရှိနိုင်ပါ။

ဥပမာ။ ။ (၂)**الشمس** (နေ)ဟူသော ယေဘုယျပုဒ်အတွက် နောက်ထပ်ရှိနိုင်သော်လည်း (ရှာဖွေ့မတွေ့သေးသည့်အတွက်) တစ်ခုသာရှိသည်ဟု သတ်မှတ်ထားပါသည်။

(၃) لـه أفـراد كثيـرة فى الخارج ➢ လက်တွေ့ကျကျ အရေအတွက် အမြောက်အမြား ရှိနိုင်ခြင်းနှင့်အတူ အမှန်တကယ်ရှိသော ယေဘုယျပုဒ်မျိုး ဖြစ်သည်။ ဉပမာ။ ။ الإنسان (လူသား)

လူသားတို့သည် လက်တွေ့ကျကျ အရေအတွက် အမြောက်အမြား ရှိကြပါသည်။

## كلي له فرد واحد فقط فى الخارج

အရေအတွက်အမြောက်အမြားရှိနိုင်သော်လည်း လက်တွေ့ကျကျ တစ်ခု၊ တစ်ကောင်၊ တစ်ယောက်သာရှိသော ယေဘုယျပုဒ်မျိုး၏ အရေအတွက်အရ နောက်ထပ်ရှိနိုင်ခြင်းနှင့် အလျဉ်းမရှိနိုင်ခြင်းအပေါ် အခြေခံလျက် ပုံစံနှစ်မျိုးကွဲပါသည်။

(၁) يـمتنع وجود بقية الأفراد (အရေအတွက် နောက်ထပ်ရှိနိုင်သောအမျိုး)

(၂) يـمكن وجود بقية الأفراد (အရေအတွက်နောက်ထပ်အလျဉ်းမရှိနိုင်သောအမျိုး)

(၁) يــمتــنــع وجــود الـفـرد الأخـر လက်တွေ့ကျကျတစ်ခု၊ တစ်ကောင်၊ တစ်ယောက်သာ ရှိသည့်အပြင် အရေအတွက်အရ နောက်ထပ်အလျဉ်းမရှိနိုင်သောအမျိုးဖြစ်ပါသည်။

ဉပမာ= ( واجب الوجوب (أي ضروري الوجود و دائمه )

ဤယေဘုယျပုဒ်မျိုးသည် အမျိုးအစားအရ အရေအတွက် အများအပြား ရှိနိုင်သော်လည်း လက်တွေ့ကျကျ ထို ယေဘုယျပုဒ်တွင် ذات الله မှ အပ အခြားမည်သည့် أفراد မျှ အလျဉ်းမရှိနိုင်ပါ။

(၂) يمكن وجود بقية الأفراد လက်တွေ့ကျကျ တစ်ခု၊ တစ်ကောင်၊ တစ်ယောက်သာ ရှိနေသော်လည်း အရေအတွက်အရ နောက်ထပ်ရှိနိုင်သောအမျိုးအစားဖြစ်ပါသည်။

ဥပမာ။ ။ الشمس နေသည် လက်တွေ့ကျကျ တစ်ခုတည်းသာ ရှိနေသော်လည်း အရေအတွက်အရ နောက်ထပ်ရှိနိုင်သေးပါသည်။

## كلي له أفراد كثيرة فى الخارج

လက်တွေ့ကျကျ အရေအတွက် အမြောက်အမြား ရှိနိုင်ခြင်းနှင့်အတူ အမှန်တကယ်ရှိသော ယေဘုယျပုဒ်မျိုး၏ ပုံစံနှစ်ခုရှိနိုင်သည်။

(၁) محدودة (အရေအတွက် ကန့်သတ်ချက်ရှိသော ယေဘုယျပုဒ်မျိုး)

(၂) غير محدودة (အရေအတွက် ကန့်သတ်ချက်မရှိသောယေဘုယျပုဒ်မျိုး)

(၁) كلي له أفراد محدودة (၁) ➢ အရေအတွက် ကန့်သတ်ချက်ရှိသော ယေဘုယျပုဒ်မျိုး။

ဥပမာ။ الكوكب السيار، لها سبعة أفراد فقط وهى الشمس والقمر والزحل و المشترى و المريخ والعطارد والزهرة

ဂြိုလ်(၇) လုံးသာရှိပါသည်။ ၎င်းတို့မှာ- နေ၊ လ၊ စနေဂြိုလ်၊ ဂျူပီတာ၊ အင်္ဂါဂြိုလ်၊ မာကျူရီ နှင့် ဗီးနပ်စ်တို့ ဖြစ်ကြပါသည်။

(၂) كلى له أفراد محدودة (၂) ➢ အရေအတွက် ကန့်သတ်ချက်မရှိသော ယေဘုယျပုဒ်မျိုး။

ဥပမာ ။ الإنسان والملك و الجن (လူသား၊ ဂျင်န်နှင့်ဖရရှ်သာများ)

المفهوم
كلى
الجزئى
الإضافى
الحقيقى
ممتنع الأفراد
ممكن الأفراد
ليس له فرد واحد في الخارج
له فرد واحد فقط في الخارج
له أفراد كثيرة في الخارج
محدودة
غير محدودة
يمتنع وجود الفرد الآخر
يمكن وجود الفرد الآخر

## လေ့ကျင့်ခန်း (၉)

၁။ الكلي နှင့် الجزئي တို့၏ ဖွင့်ဆိုချက်ကို ရေးပါ။

၂။ الكلي ၏ အမျိုးအစား(၆)မျိုးတို့ကို ရှင်းပြပါ။

၃။ الكليات الفرضية (အမှန်တကယ် كلي မဟုတ်ဘဲ كلي ဟုသတ်မှတ်ခံရသော) ပုံစံများရှိနိုင်ပါသလား။

### အရေအတွက် အမြောက်အမြားရှိသော كلي (ယေဘုယျပုဒ်) သည် အခြေခံအားဖြင့် နှစ်မျိုးထပ်၍ ကွဲပါသည်။

(၁) الكلى الذاتى ( ဗီဇလက္ခဏာ/သဘာဝစရိုက်ကို အခြေခံလျက်ဂုဏ်တူ ပြုစုထားသော ယေဘုယျပုဒ်)

(၂) الـكـلـى الـعـرضـى ( ယာယီအချင်းလက္ခဏာများကို အခြေခံလျက် ဂုဏ်တူပြုစုထားသော ယေဘုယျပုဒ်)

(၁) الـكـلـى الذاتـى ဆိုသည်မှာ အရာဝတ္ထုတို့၏ တူညီသော ဗီဇ လက္ခဏာ (ဝါ) သဘာဝစရိုက်ကို အခြေခံလျက် ၎င်းတို့ကို ဂုဏ်တူပြုစုလိုက် သည့် အခါ ရရှိလာသော ယေဘုယျပုဒ်မျိုး ဖြစ်ပါသည်။

ဥပမာ ။ حيـــــــــوان သည် ယေဘုယျပုဒ်တစ်ခုဖြစ်ပါသည်။ ထိုယေဘုယျပုဒ်တွင်ပါသော حيـوان များအနက် တစ်ကောင်၊ တစ်ယောက် တိုင်းသည် حيـــــوانية ဟူသော ဗီဇလက္ခဏာနှင့် စက္ကန့်မလပ် ဒွန်တွဲနေပါ သည်။ ထို့ကြောင့် حيـوان ဟူသော အချင်းလက္ခဏာသည် သတ္တဝါတိုင်း၏ ဗီဇတွင် ပါဝင်နေပါသည်။

ရှင်းလင်းချက်။ ။ လူ၊ မြင်း၊ နွား စသည့် သတ္တဝါအားလုံးတို့၌ حيـوان မဖြစ်သော အချိန်စက္ကန့်ဟူသည် အလျဉ်းမရှိနိုင်သောကြောင့် حيـــــوان

ဖြစ်ခြင်းဟူသော အချင်းလက္ခဏာသည် ၎င်းတို့၏ဗီဇလက္ခဏာ (ဝါ) ထာဝရ အချင်းလက္ခဏာ ဖြစ်သည်ဟု သတ်မှတ်ရပါသည်။

(၂) الكلي العرضي ဆိုသည်မှာ အရာဝတ္ထုတို့၏ တူညီသော ယာယီ အချင်းလက္ခဏာကို အခြေခံလျက် ၎င်းတို့ကို ဂုဏ်တူပြုစုလိုက်သည့်အခါ ရရှိလာသော ယေဘုယျပုဒ်မျိုး ဖြစ်ပါသည်။

ဥပမာ။ الـــضـــاحك သည် ယေဘုယျပုဒ်တစ်ခု ဖြစ်ပါသည်။ ထို ယေဘုယျပုဒ်တွင်ပါသော ضِحْكٌ ဟူသည့် အချင်းလက္ခဏာသည် ضاحك အားလုံး၏ ဗီဇလက္ခဏာတွင် မပါဝင်ပါ။

ရှင်းလင်းချက်။ ။ زيد ، عمرو، بكر စသည်တို့သည် إنسان များ ဖြစ်ကြသော်လည်း ထာဝရရယ်မောသူများ မဟုတ်ကြပါ။ ရယ်မောခြင်းသည် ဗီဇလက္ခဏာတွင် မပါဝင်ပါ။ ဗီဇလက္ခဏာတွင် ပါသောအရာများသည် တစ်မိနစ်၊ တစ်စက္ကန့်မျှ မလစ်လပ်ဘဲ အမြဲဒွန်တွဲမည်ဖြစ်သောကြောင့် الـكـلـى العرضي (ရယ်မောခြင်း၊ ရေးသားခြင်း၊ လမ်းလျှောက်ခြင်း စသည် တို့)သည် လူတို့၏ဗီဇလက္ခဏာတွင် မပါနိုင်ပါ။

## الكلي الذاتى

الـــكـــلـي الـذاتـي ဗီဇလက္ခဏာ/သဘာဝစရိုက်ကို အခြေခံလျက် ဂုဏ်တူပြုစုထားသော ယေဘုယျပုဒ် သုံးမျိုးရှိပါသည်။

(၁) نوع (သဘာဝစရိုက်တူညီသော အရာများပါဝင်သောမျိုးစု)

(၂) جنس (သဘာဝစရိုက်ကွဲပြားသော အရာများပါဝင်သောမျိုးစု)

(၃) فصل (ခွဲခြားပုဒ်)

(၁) نــوع ➤ သဘာဝစရိုက်တူညီသော အရာများ၏ အနှစ်သာရကို သိလိုသောအခါမျိုးတွင် အရာဝတ္ထုတစ်ခုကို ပင်တိုင်ထား၍ ဤအရာနှင့် ၎င်း၏ပုံတူများကို မည်သို့ခေါ်ဆိုရပါသနည်းဟူ၍ မေးခွန်းထုတ်ကြည့်ပါ။ ထိုမေးခွန်း၏အဖြေနေရာတွင် လာမည့် မျိုးစုကို نوع ဟုခေါ်ရမည်။

(အချုပ်တင်ပြရသော် သဘာဝစရိုက်တူညီသောအရာများပါဝင်သည့် မျိုးစုအမည်ကို نوع ဟုခေါ်ရပါသည်။)

ဥပမာအနေဖြင့် အပင်များသည် တစ်ပင်နှင့်တစ်ပင် သဘာဝစရိုက် တူကြသည်။ ထိုကဲ့သို့ သဘာဝစရိုက်တူညီသော အပင်တစ်ပင်နှင့်အခြား အပင်များကို ပူးတွဲလျက် ဤအရာများကို မည်သို့ ခေါ်ဆိုရပါသနည်းဟု မေးမည်။ ထိုမေးခွန်း၏အဖြေ الشجر သည် မျိုးစုတစ်ခုဖြစ်သည်။ ထိုမျိုးစု (ယေဘုယျပုဒ်)ကို نوع ဟုခေါ်ရပါသည်။

(၂) جــنــس ➤ သဘာဝစရိုက်မတူသောအရာများ၏ အနှစ်သာရကို သိလိုသောအခါမျိုးတွင် (مــا هــو وأمثــالــه) ဤအရာနှင့် ၎င်း၏ပုံတူသော အရာများကို မည်သို့ခေါ်ဆိုရပါသနည်းဟူ၍ မေးခွန်းထုတ်ကြည့်ပါ။ ထိုမေးခွန်း၏အဖြေနေရာတွင် လာမည့်မျိုးစုကို جنس ဟုခေါ်ရမည်။

(အချုပ်တင်ပြရသော် သဘာဝစရိုက်ကွဲပြားသောအရာများ ပါဝင်သည့် မျိုးစုအမည်ကို جنس ဟုခေါ်ရပါသည်။)

ဥပမာ။ သတ္တဝါများသည် တစ်ကောင်နှင့်တစ်ကောင် သဘာဝစရိုက် ကွဲပြားကြပါသည်။ သတ္တဝါအမျိုးမျိုးကို ပူးတွဲ၍ ၎င်းတို့ကို အဘယ်သို့ ခေါ်ဆိုရပါမည်နည်းဟု မေးမည်။ ထိုမေးခွန်း၏အဖြေ الــحيــوان သည် မျိုးစုတစ်ခုဖြစ်သည်။ ၎င်းမျိုးစုကို جنس ဟုခေါ်ရပါသည်။

(၃) فصل (ခွဲခြားပုဒ်) ➤ဆိုသည်မှာ မျိုးစုတစ်ခုထဲတွင်ပါဝင်သော အရာများအနက် မျိုးစိတ်တစ်ခုကို ကျန်ရှိမျိုးစိတ်အားလုံးမှ ခွဲခြားသိမြင်စေရန် ထိုမျိုးစိတ်၏ အထူးခြားဆုံးဂုဏ်ထူးလက္ခဏာ ဖော်ပြသောပုဒ် ဖြစ်သည်။

منطق ပညာရှင်တို့က فصل ဟူသည် အရာတစ်ခုနှင့်ပတ်သက်၍ أى شيء هو فى حقيقته أو فى ذاته ထိုအရာသည် မိမိ၏ဗီဇအသွင်အရ ဂုဏ်ထူးဝိသေသသည် မည်သို့နည်းဟူ၍ မေးသော မေးခွန်း၏ အဖြေဖြစ်သည်ဟု အဓိပ္ပါယ်ဖွင့်ဆိုထားကြပါသည်။

ဥပမာ။ လူသားနှင့်ပတ်သက်၍ أى شيء هو فى حقيقته أو فى ذاته လူသားသည် မိမိ၏ဗီဇအသွင်အရ သူ၏ဂုဏ်ထူးဝိသေသသည် မည်သို့နည်းဟု မေးခွန်းထုတ်ကြည့်ပါ။ ထိုမေးခွန်း၏အဖြေသည် ခွဲခြားပုဒ်ဖြစ်မည်။ ထိုပုဒ်သည် လူသားကို ၎င်းနှင့်အတူ မျိုးစုတစ်ခုတည်းတွင် အတူပါဝင်သော အရာအားလုံးမှ တသီးတခြား ဖြစ်စေပါသည်။

လူဆိုသည်မှာ အဘယ်နည်း။

လူဆိုသည်မှာ အသိဉာဏ်ရှိသူဖြစ်သည်။

လူဆိုသည်မှာ အာရုံခံစားမှု အကောင်းဆုံးသူဖြစ်သည်။

လူဆိုသည်မှာ စကားတတ်သူဖြစ်သည် စသည့်အဖြေများတွင်ပါဝင်သော အသိဉာဏ်ရှိသူ၊ အာရုံခံစားမှု အကောင်းဆုံးသူ၊ စကားတတ်သူ ဟူသော ပုဒ်များသည် ခွဲခြားပုဒ်များ ဖြစ်ကြသည်။

## الكلي الذاتي (၃)ခု၏ ကွာခြားချက်

ပထမနှစ်ခုတွင် အုပ်စုဖွဲ့၍ မေးခွန်းထုတ်ရပါသည်။ فصل တွင် သီးသန့်အရာဝတ္ထုတစ်ခုနှင့်ပတ်သက်ပြီး မေးခွန်းထုတ်ရပါသည်။

**(၁) ယေဘုယျပုံစံဖြစ်သော نوع (မျိုးစုငယ်) နှစ်မျိုးရှိပါသည်။**

(၁) نوع حقيقى (မျိုးစုငယ်အစစ်)

(၂) نوع إضافى (မိမိထက်ကြီးသော မျိုးစုကြီးနှင့် ယှဉ်ထိုးမှုကြောင့် မျိုးစုငယ်အဖြစ် သတ်မှတ်ခံရသော မျိုးစုငယ်)

(၁) نوع حقيقى (မျိုးစုငယ်အစစ်) ဆိုသည်မှာ ၎င်း၏ အောက်၌ جزئى حقيقى (မျိုးစိတ်ငယ်အစစ်) တစ်ခုထက်ပို၍ ရှိရသော မျိုးစုငယ်မျိုးကို ခေါ်သည်။

(မျိုးစုငယ်တခု၏အောက်တွင် မျိုးစုငယ်ထပ်ရှိနိုင်လျှင် ၎င်းကို မျိုးစုငယ်အစစ်ဟု သတ်မှတ်၍မရပါ။ ထို့ကြောင့် မျိုးစုငယ်အစစ်၏ အောက်တွင် မျိုးစိတ်သာ ရှိနိုင်ပါသည်။ မည်သည့် မျိုးစုမျှ မရှိနိုင်ပါ။)

ဥပမာ။ الإنسان ဟူသော မျိုးစုငယ်အစစ်၏ အောက်တွင် ( زيد، عمرو، بكر ) စသည့် မျိုးစိတ်ငယ်များစွာရှိသည်။ သို့သော် မည်သည့် မျိုးစုမျှ မရှိပါ။

(၂) نوع إضافى ဆိုသည်မှာ အထက်တွင် جنس (မျိုးစုကြီး) ရှိပြီး၊ အောက်တွင် အခြား نوع (မျိုးစုငယ်) တစ်ခုခုရှိသော نوع မျိုးကို ခေါ်သည်။

အမှန်မှာ ဤအမျိုးသည် ၎င်းထက်ငယ်သောမျိုးစုတစ်ခုခု ရှိသောကြောင့် မျိုးစုငယ်အစစ်မဟုတ်သော်လည်း မိမိထက်ပိုကြီးသော အထက်ရှိ မျိုးစုကြီးတစ်ခုခုနှင့် ယှဉ်ထိုးလိုက်သည့်အခါ ငယ်သည်ဟု သတ်မှတ်ခံရသည့်အတွက် မျိုးစုငယ်ဟု ခေါ်ရခြင်းဖြစ်သည်။

ဥပမာ။ الحيوان

ဤမျိုးစု၏အထက်တွင် الجسم النامى ( جنس ) ဟူသည့် မျိုးစိတ်ကြီးရှိသောကြောင့် الحيوان သည် မျိုးစုငယ်ဖြစ်ပါသည်။

သို့သော် الحيوان ၏ အောက်တွင် الإنسان ( نوع) မျိုးစုငယ်ရှိသေးသောကြောင့် جنس လည်းဖြစ်နေသည်။

ဤသို့ဖြင့် الحيوان အား الإنسان (မျိုးစုငယ်အစစ်)နှင့် ယှဉ်ထိုးကြည့်သည့်အခါ حيوان သည် جنس (မျိုးစုကြီး)ဟု ခေါ်ဆိုရပြီး၊ မိမိထက်ပို၍ကြီးသော မျိုးစုကြီးများနှင့် (ဥပမာ الجسم النامى နှင့်) ယှဉ်ထိုးကြည့်သည့်အခါ حيوان ကို نوع (မျိုးစုငယ်)ဟု ခေါ်ဆိုရသည့်အတွက် ၎င်းသည် نوع حقيقى (မျိုးစုငယ်အစစ်) မဖြစ်နိုင်တော့ပါ။ نوع إضافى သာ ဖြစ်လိမ့်မည်။

(١)الجسم النامى (المثال : شجر،إنسان،فرس) (**جنس** باعتبار ماتحته، **نوع إضافى** باعتبارما فوقه)

(٢) الحيوان (المثال : فرس، جاموس، إنسان) ( **جنس** باعتبار ماتحته ، **نوع إضافى** باعتبارما فوقه)

(٣) الحيوان الناطق (المثال : إنسان)(**نوع حقيقى** باعتبار ماتحته، **جزئى إضافى** باعتبارما فوقه)

(٤) زيد ، عمر ، بكر (**جزئى حقيقى** فقط .لاغير )

**جنس** သည်လည်း နှစ်မျိုးရှိပါသည်။

(၁) **الجنس القريب** (မျိုးစုငယ်)

(၂) **الجنس البعيد** (မျိုးစုကြီး)

(၁) جنس တစ်ခု၏အောက်တွင် နောက်ထပ် جنس မရှိနိုင်ဘဲ نوع သာ ရှိနိုင်သော جنس မျိုးကို **جنس قريب** ဟုခေါ်ပါသည်။

ဥပမာ။ الحيوان သည် جنس တစ်ခုဖြစ်သည်။ ထို جنس အောက်တွင် نوع သာ ရှိနိုင်ပါသည်။ جنس မရှိနိုင်တော့ပါ။

(၂) جنس တစ်ခု၏ အောက်တွင် جنس တစ်ခု (သို့မဟုတ်) တစ်ခုထက်ပို၍လည်း ရှိနိုင်သော جنس မျိုးကို **جنس بعيد** ဟုခေါ်ပါသည်။

ဥပမာ။ الجسم သည် جنس တစ်ခုဖြစ်သည်။ သို့သော် ထို جنس ၏ အောက်တွင် နောက်ထပ် جنس များ ရှိနိုင်သေးသည်။

၎င်းတို့မှာ الحيوان နှင့် الجسم النامى တို့ဖြစ်ပါသည်။

ရှင်းလင်းချက်။ ။ الإنسان မှ ကြည့်လျှင် الحيوان သည် ၎င်း၏ جنس قريب ဖြစ်ပြီး၊ الجسم ၊ الجسم النامى စသည်တို့သည် الإنسان ၏ الجنس البعيد များဖြစ်ကြသည်။

အလွယ်ပြောရလျှင်- جنس قريب ဆိုသည်မှာ نوع နှင့် အနီးဆုံး جنس ကို ခေါ်ပြီး၊ ကျန်ရှိသော جنس အားလုံးတို့သည် جنس بعيد များဖြစ်ကြသည်။

## الفصل (ခွဲခြားပုဒ်) သည်လည်း နှစ်မျိုးရှိပါသည်။

(၁) الفصل القريب (မျိုးစုငယ်၏ ခွဲခြားပုဒ်)

(၂) الفصل البعيد (မျိုးစုကြီး၏ ခွဲခြားပုဒ်)

**الفصل القريب** သည် အရာတစ်ခုနှင့် الجنس القريب တွင် အတူပါဝင် နေကြသောအရာများအနက်မှ အရာဝတ္ထုတစ်ခု၏ထူးခြားသည့် ဂုဏ်ဒြပ်လက္ခဏာ ကိုဖော်ပြပြီး ထိုအရာကို ကျန်ရှိသောအရာများနှင့် ခွဲခြားပေးသော ယေဘုယျပုဒ် ဖြစ်သည်။

ဥပမာ။ الناطق

ရှင်းလင်းချက် ၁။ الحيوان ဟူသော မျိုးစုတွင် الإنسان နှင့်အတူပါဝင်သော မည်သည့် မျိုးစိတ်၌မျှ نطق ဖြစ်ခြင်း၏ ဂုဏ်ဒြပ်မရှိသောကြောင့် ناطق ကို ဖော်ပြလိုက်သည်နှင့် الإنسان ဟူသောမျိုးစိတ်သည် အခြားမျိုးစိတ်အားလုံးမှ တသီးတခြား ဖြစ်သွားပါသည်။

ရှင်းလင်းချက် ၂ ။ الحيوان သည် الإنسان ၏ الجنس القريب ဖြစ်ပါသည်။

**الفصل البعيد** သည် အရာတစ်ခုနှင့် الجنس البعيد တွင်အတူပါဝင်နေသော အရာများအနက်မှ အရာတစ်ခု၏ ထူးခြားသည့် ဂုဏ်ဒြပ်လက္ခဏာကို ဖော်ပြပြီး ထိုအရာကို ကျန်ရှိသောအရာများနှင့် ခွဲခြားပေးသော ယေဘုယျပုဒ်ဖြစ်သည်။

ဥပမာ။ حساس (အာရုံခံစားမှုအရမ်းကောင်းသူ)

ရှင်းလင်းချက် ၁။ الجسم النامى ဟူသောမျိုးစုတွင် ၎င်းနှင့်အတူပါဝင်နေသော မျိုးစိတ်အားလုံးအနက်မှ الإنسان မှလွဲ၍ မည်သည့် မျိုးစိတ်၌မျှ حساس ဟူသော ဂုဏ်ဒြပ်မရှိသောကြောင့် الإنسان သည် တသီးတခြားဖြစ်သွားပါသည်။

ရှင်းလင်းချက် ၂။ الجسم النامى သည် الإنسان ၏ الجنس البعيد ဖြစ်ပါသည်။

## الكلي العرضي ၏ အမျိုးအစားများ

الكلي العرضي ( ယာယီအချင်းလက္ခဏာများကို အခြေခံလျက် ဂုဏ်တူပြုစုထားသော ယေဘုယျပုဒ်) နှစ်မျိုးရှိပါသည်။

(၁) **الخاصة** (အထူးပြုပုဒ်)

(၂) **عرض عام** (သာမန်ယေဘုယျပုဒ်)

(၁) الخاصة (အထူးပြုယေဘုယျပုဒ်)ဆိုသည်မှာ သဘာဝစရိုက်တစ်ခုတည်းတွင် အတူပါဝင်ကြသော အရာများ၏ ယာယီအချင်းလက္ခဏာအဖြစ်နှင့် ရပ်တည်သော ယေဘုယျပုဒ်မျိုးကို ခေါ်ပါသည်။

ဥပမာ။ الضاحك ، الكاتب (ရယ်မောသူ၊ စာရေးသူ)

ဤအချင်းလက္ခဏာနှစ်ခုသည် သီးသန့် လူသားတို့နှင့်သာ သက်ဆိုင်သည်။ အခြားသောအရာများတွင် ဤအချင်းလက္ခဏာ မတွေ့ရှိနိုင်သောကြောင့် ဤအချင်းလက္ခဏာများကို အသုံးပြု၍ လူသားကို ရည်ညွှန်းနိုင်ပါသည်။ သို့သော် လူသားတို့သည် ဖော်ပြပါအချင်းလက္ခဏာများနှင့် အတူ ထာဝရဒွန်တွဲ၍ မနေပါ။ တစ်ခါတရံ၌သာ ဒွန်တွဲလိမ့်မည်ဖြစ်သည်။

(၂) عــام عـــرض (သာမန်ပုဒ်)ဆိုသည်မှာ တစ်ခုနှင့်တစ်ခု သဘာဝ စရိုက်မတူကြသော အရာများ၏ ယာယီအချင်းလက္ခဏာအဖြစ်နှင့် ရပ်တည်နေသော ယေဘုယျပုဒ်မျိုးကို ခေါ်ပါသည်။

ဥပမာ။ الماشى

ဤအချင်းလက္ခဏာသည် إنسـان နှင့်သာ သက်ဆိုင်သည်မဟုတ်ဘဲ ဂုဏ်ဒြပ်ကွဲပြားသော الـــحيـــوان ၏ အများအပြားနှင့် သက်ဆိုင်သည်။ الـمـاشــى အား ဖော်ပြ၍ သီးသန့် လူသားကို ရည်ညွှန်း၍ မရပါ။ ထို့အတူ ဤဂုဏ်ဒြပ်သည် အမြဲဒွန်တွဲနေမည့် ဂုဏ်ဒြပ်လည်းမဟုတ်ပါ။

الخاصة နှင့် عرض عام တို့သည် နှစ်မျိုးစီ ထပ်ကွဲကြပါသည်။

(၁) **شاملة** (နှံ့စပ်ပုဒ်)

(၂) **غير شاملة** (မနှံ့စပ်ပုဒ်)

## الخاصة (အထူးပြုယေဘုယျပုဒ်)

(၁) الخاصة الشاملة (အထူးပြု နှံ့စပ်ပုဒ်)

ဥပမာ။ الضاحك بالقوة (ရယ်မောနိုင်စွမ်းရှိသူ)

ရှင်းလင်းချက်။ ။ ရယ်မောနိုင်စွမ်းရှိခြင်းဟူသော အချင်းလက္ခဏာသည် လူသားအားလုံးနှင့် အမြဲဒွန်တွဲနေသောကြောင့် လူသားအားလုံးအတွက် ဖြစ်မည်။

(၂) الخاصة غير شاملة (အထူးပြု မနှံ့စပ်ပုဒ်)

ဥပမာ။ الضاحك بالفعل (လက်တွေ့ရယ်မောနေသူ)

ရှင်းလင်းချက်။ ။အမှန်တကယ် ရယ်မောခြင်းဟူသော အချင်းလက္ခဏာသည် လက်တွေ့ရယ်မောနေသော လူအချို့နှင့်သာ သက်ဆိုင်သည်။

## عرض عام (သာမန်ယေဘုယျပုဒ်)

(၁) عرض عام شامل (သာမန် နှံ့စပ်ပုဒ်)

ဥပမာ။ الماشي بالقوة (ရွေ့လျားနိုင်စွမ်းရှိသူ)

ရှင်းလင်းချက်။ ။ ရွေ့လျားနိုင်စွမ်းရှိခြင်းဟူသော အချင်းလက္ခဏာသည် الحيوان အားလုံးနှင့် သက်ဆိုင်သည်။

(၂) عرض عام غير شامل (သာမန် မနှံ့စပ်ပုဒ်)

ဥပမာ။ الماشي بالفعل (ရွေ့လျားနေသူ)

ရှင်းလင်းချက်။ ။ရွေ့လျားခြင်းဟူသော အချင်းလက္ခဏာသည် အမှန်တကယ် ရွေ့လျားနေသာ الحيوان အချို့နှင့်သာ သက်ဆိုင်သည်။

التقسيم الثانى للكلى
الكلى الذاتى
الكلى العرضى
نوع
جنس
فصل
خاصة
عرض عام
قريب
بعيد
شاملة
غيرشاملة
قريب
بعيد
شاملة
غير شاملة
الحقيقى
الإضافى

## လေ့ကျင့်ခန်း (၁၀)

၁။ الذاتي الكلي နှင့် العرضي တို့အား အဓိပ္ပါယ်ဖွင့်ဆိုပြီး နောက်တွင် ၎င်းမှ ခွဲထွက်လာသော الكلي (၅)မျိုးတို့ကို ဖော်ပြပါ။

၂။ الفصل နှင့် الجنس တို့၏ အမျိုးအစားများကို ရှင်းပြပါ။

၃။ الخاصة နှင့် العرض العام တို့၏ အဓိပ္ပါယ်ဖွင့်ဆိုပါ။

၄။ الخاصة الشاملة ၏ အဓိပ္ပါယ်ဖွင့်ဆိုပါ။

၅။ العرض العام الشامل ကို ဥပမာနှင့်တကွ ရှင်းပြပါ။

## الْمُعَرِّفُ (အဓိပ္ပါယ်သတ်မှတ်ခြင်း)

(بالراء المكسورة) المعرّف ➤ အရာဝတ္ထုတစ်ခု၏ အနှစ်သာရကို ဖေါ်ဆောင်လိုသောအခါမျိုးတွင် သို့မဟုတ် ထိုအရာဝတ္ထုကို အခြား အရာများမှ ကွဲပြားခြားနားစွာ ထင်လင်းမြင်သာစေရန် ပြုလုပ်ထားသော အဓိပ္ပါယ်သတ်မှတ်ချက်ကို المعرِّف ဟုခေါ်သည်။ ထိုအဓိပ္ပါယ်သတ်မှတ် ချက်တွင် ထင်လင်းမြင်သာစေလိုသော အရာဝတ္ထု၏ ထူးခြားသည့်ဂုဏ်ဒြပ် လက္ခဏာ/ဂုဏ်ထူးဝိသေသတို့ ပါဝင်မည်ဖြစ်သည်။

تصور (ပုဒ်)များကို ထင်လင်းမြင်သာရန် ပြုလုပ်ထားသော အဓိပ္ပါယ်သတ်မှတ်ချက်ကို المعرِّف ဟုခေါ်ပြီး၊ التصديق (အဆို)များကို ထင်လင်းမြင်သာရန် ပြုလုပ်ထားသော အဓိပ္ပါယ်သတ်မှတ်ချက်ကို الحُجَّةُ ခေါ်နိုင်ပါသည်။ ပုဒ်ဆိုသည်မှာ အဖြစ်အပျက်အချင်းအရာများ မပါသော အသိကို ခေါ်ပြီး၊ အဖြစ်အပျက် အချင်းအရာများပါသော အသိမျိုးကို تصديق (အဆို)ဟု ခေါ်ရပေမည်။

( الحجة အကြောင်းကို ရှေ့လာမည် သင်ခန်းစာတွင် တင်ပြသွားမည်။)
المعرِّف အား القول الشارح ဟုလည်း ခေါ်နိုင်ပါသည်။

## အဓိပ္ပါယ်သတ်မှတ်ခြင်း၏ အကျိုးသက်ရောက်မှု

လူ၊ သစ်ပင်၊ တရိစ္ဆာန်၊ တော၊ တောင်၊ ရေ၊ မြေ စသည့် စကားလုံးများသည် ဂုဏ်တူစုများ၏ အမည်နာမများဖြစ်ကြသည်။ ထို့ကြောင့် ဂုဏ်တူပြုစုရာတွင် ဂုဏ်တူပြုစုမည့် အရာဝတ္ထုများကို မှည့်ခေါ်ထားသော ဝေါဟာရများ၏ အနက် အဓိပ္ပါယ်ကို တိတိကျကျသိရန်လိုသည်။ အဓိပ္ပါယ်တိကျမှုသည် အဓိပ္ပါယ်သတ်မှတ်မှုနှင့် သက်ဆိုင်သည်။

လူဆိုသည်မှာ အဘယ်နည်း။

လူဆိုသည်မှာ အသိဉာဏ်ရှိသော သတ္တဝါဖြစ်သည်။

လူဆိုသည်မှာ အာရုံခံစားမှုအကောင်းဆုံး သတ္တဝါဖြစ်သည်။

လူဆိုသည်မှာ ပြောဆိုရေးသားနိုင်စွမ်းရှိသော သတ္တဝါဖြစ်သည် ဟူ၍ အမျိုးမျိုးဆိုကြသည်။

ဤသို့ဆိုကြခြင်းသည် လူဟူသော စကားကို အဓိပ္ပါယ်သတ်မှတ်ကြခြင်းဖြစ်သည်။ အလားတူပင် အိပ်ခြင်း၊ စားခြင်း၊ မေထုန်မှီဝဲခြင်းကိုသာ သိသော သတ္တဝါကို တရိစ္ဆာန်ဟူ၍လည်းကောင်း ရေပတ်လည်ဝိုင်းနေသောကုန်းမြေကို ကျွန်းဟူ၍လည်းကောင်း အဓိပ္ပါယ်သတ်မှတ်ကြသည်။

**ဝေါဟာရများကို အဘယ်ကြောင့် အဓိပ္ပါယ်သတ်မှတ်ရန် လိုအပ်သနည်း။**

ကျွန်ုပ်တို့နေ့စဉ်ပြောဆိုသုံးနှုန်းနေကြသော ဘာသာစကားသည် အလွန့်အလွန် ရှုပ်ထွေး ပွေလီပြီး အနက်မကွဲဖြစ်နေသည်။ အလားတူပင် အသိပညာ အတတ်ပညာဆိုင်ရာ အပြောအဆို၊အရေးအသားများ၌ ဘာသာစကား၏ရှုပ်ထွေးမှုများ ပါနေသည်။ အလွယ်ဆုံးပုံစံတစ်ခု ပြရလျှင် တံတွေးထွေးခြင်း သည်းခံပါဟုဆိုရာ၌ သူများက တံတွေးနှင့်ထွေးသည်ကို ကိုယ်က သည်းခံနေရမည်လော၊ တံတွေးထွေးချင်လာလျှင် မထွေးပဲ သည်းခံပြီး ငုံထားရမည်လော၊ တံတွေးမထွေးရဟု ဆိုသလော စသည်ဖြင့် ရှုပ်ထွေးဝေ့လည်နေသည်။ ထို့ကြောင့် မှန်ကန်သော အသိပညာရအောင် ကြိုးပမ်းကြရာ၌ အဓိပ္ပါယ်သတ်မှတ်ရန် အထူးလိုအပ်သည်။

## အဓိပ္ပါယ်သတ်မှတ်ပုံ

အရစ္စတိုတယ်က အဓိပ္ပါယ်သတ်မှတ်ခြင်းသည် အရာဝတ္ထုတခု၏ အနှစ်သာရကို ဖေါ်ဆောင်ခြင်းပင်ဖြစ်သည်ဟု ဆိုသည်။

ပုံစံ။ ။ စက်ဝိုင်းဆိုသည်မှာ ပြင်ညီ၍ လုံးဝိုင်းသောမျဉ်းကွေးတစ်ခု၏ အလယ်ဗဟို တည့်တည့်မှနေ၍ ထိုမျဉ်းကွေးပေါ်၏ မည်သည့်နေရာနှင့်မဆို တူညီသော အကွာအဝေးရှိသောပုံ ဖြစ်သည်။ ဤတွင် မျဉ်းကွေးပေါ်၏ မည်သည့်နေရာနှင့်မဆို တူညီသောအကွာအဝေးရှိသည်ဆိုသော စကားစုသည် စက်ဝိုင်း၏ အနှစ်သာရကို ဖေါ်ပြသော ဝိသေသနပုဒ်ဖြစ်သည်။

ထို့ကြောင့် အဓိပ္ပါယ်သတ်မှတ်မှုတခုတွင် အဓိပ္ပါယ်သတ်မှတ်ခံပုဒ် (الـمُعَرَّفُ) နှင့် (الـمُعَرِّفُ) အဓိပ္ပါယ်သတ်မှတ်ပေးပုဒ်များ ပါရမည်။ အထက်ပါပုံစံတွင် စက်ဝိုင်းသည် အဓိပ္ပါယ်သတ်မှတ်ခံပုဒ်ဖြစ်ပြီး နောက်တွင်ဖေါ်ပြထားသော စကားစုသည် အဓိပ္ပါယ်သတ်မှတ်ပေးပုဒ်ဖြစ်သည်။

တဖန် အဓိပ္ပါယ်သတ်မှတ်ပေးပုဒ်တွင်လည်း ပုဒ်နှစ်ခုပါသည်ဟု အရစ္စတိုတယ်က ဆိုသည်။ ယင်းပုဒ်နှစ်ခုသည် မျိုးစု နှင့် ခွဲခြားပုဒ်တို့ ဖြစ်ကြသည်။ ဥပမာအနေဖြင့် လူဆိုသည် အဘယ်အရာဝတ္ထုဖြစ်ပါသနည်း ဟု မေးရာတွင် လူသည် الحيوان الناطق (စကားတတ်သော သတ္တဝါ) ဟု အဓိပ္ပါယ်သတ်မှတ်သည့်အခါ သတ္တဝါဟူသောပုဒ်သည် မျိုးစုဖြစ်ပြီး၊ စကားတတ်သူဟူသောပုဒ်သည် (الفصل) ခွဲခြားပုဒ် ဖြစ်ပါသည်။

**المعرِّف** အဓိပ္ပါယ်သတ်မှတ်ပေးသောပုဒ် နှစ်မျိုးရှိပါသည်။

(၁) **حد**

(၂) **رسم**

(၁) حَدٌّ ၏ ဘာသာစကားဆိုင်ရာအဓိပ္ပာယ်မှာ المنع တားမြစ်ခြင်းဖြစ်သည်။

منطق ပညာရပ်၌ ဗီဇလက္ခဏာများကို သုံးစွဲထားသော အဓိပ္ပါယ်သတ်မှတ်ချက်ကို حَدٌّ ဟုခေါ်သည်။

(၂) الرسم ၏ အရဗီအဓိပ္ပာယ်မှာ الأثر (အမှတ်သား/လက္ခဏာ) ဖြစ်သည်။

منطق ပညာရပ်၌ ယာယီအချင်းလက္ခဏာ/ယာယီဝိသေသများအား သုံးစွဲထားသော အဓိပ္ပါယ်သတ်မှတ်ချက်ကို الرسم ဟုခေါ်သည်။

**الحد** သည် နှစ်မျိုးရှိပါသည်။

(၁) **تـــــام** (ခိုင်လုံတိကျသော/အပြည့်အစုံခြုံမိသော အဓိပ္ပါယ် သတ်မှတ်ချက်)

(၂) **ناقص** (သာမန် အဓိပ္ပါယ်သတ်မှတ်ချက်)

**الـحد التام** ဆိုသည်မှာ အဓိပ္ပာယ်သတ်မှတ်ရာတွင် جـنـس قريب နှင့် فصل قريب တို့ ပေါင်းစည်းထားသော (တနည်းအားဖြင့် မျိုးစုငယ် နှင့် မျိုးစုငယ်၏ခွဲခြားပုဒ်တို့ကို ပေါင်းစည်းထားသော) ပုံစံမျိုးကိုခေါ်သည်။

ဥပမာ။ လူဆိုသည်မှာ အဘယ်နည်း။ လူ၏ အဓိပ္ပါယ်သတ်မှတ်ရာတွင် الـحيـوان الـنــاطق နှင့် الـحيوان အား ပေါင်းစည်း၍ ဟု အဓိပ္ပါယ်သတ်မှတ်ခြင်း။

ရှင်းလင်းချက်။ ။ الـحيوان သည် الإنسـان ၏ جـنـــس قـريب ဖြစ်ပြီး၊ الـنـاطـق သည် الإنســان ၏ الــفــصـل الـقـريـب ဖြစ်ပါသည်။

**الـحد الناقص** ဆိုသည်မှာ အဓိပ္ပာယ်သတ်မှတ်ရာတွင် جـنـس بعيد နှင့် فصل قريب တို့ ပေါင်းစည်းထားသော (တနည်းအားဖြင့် မျိုးစုကြီးနှင့် မျိုးစုငယ်၏ ခွဲခြားပုဒ်တို့ကို ပေါင်းစည်းထားသော) ပုံစံမျိုးကို ခေါ်သည်။

ဥပမာ။ လူဆိုသည်မှာ အဘယ်နည်း။ လူ၏ အဓိပ္ပါယ်သတ်မှတ်ရာတွင် الجسم နှင့် الـناطق အား ပေါင်းစည်း၍ الـجسـم الناطق ဟု ဖွင့်ဆိုခြင်း။

သို့မဟုတ် الجوهر နှင့် الناطق အား ပေါင်းစည်း၍ الجوهر الناطق ဟု ဖွင့်ဆိုခြင်း။

ရှင်းလင်းချက်။ ။ الـجسم သည် الإنسـان ၏ جـنـــس بـعيد ဖြစ်ပြီး၊ الناطق သည် الإنسان ၏ فصل قريب ဖြစ်သည်။

**الرسم** နှစ်မျိုးရှိပါသည်။

(၁) **الرسم التام** (အပြည့်အစုံခြုံမိသော အဓိပ္ပါယ်သတ်မှတ်ချက်/ (ခိုင်လုံတိကျသောအဓိပ္ပါယ်သတ်မှတ်ချက်)

(၂) **الرسم الناقص** (သာမန် အဓိပ္ပါယ်သတ်မှတ်ချက်)

**الرسم التام** ဆိုသည်မှာ အဓိပ္ပါယ်သတ်မှတ်ရာတွင် جنس قريب နှင့် الخاصة ကိုပေါင်းစည်းထားသော (တနည်းအားဖြင့် မျိုးစုငယ်နှင့် ယာယီစရိုက်လက္ခဏာတခုခုကို ပေါင်းစည်းထားသော) ပုံစံမျိုးကို ခေါ်ပါသည်။

ဥပမာ။ လူဆိုသည်မှာ အဘယ်နည်း။ လူ၏ အဓိပ္ပါယ်သတ်မှတ်ရာတွင် الحيوان الضاحك နှင့် الحيوان အား ပေါင်းစည်း၍ الضاحك ဟုဖွင့်ဆိုခြင်း။

ရှင်းလင်းချက်။ ။ الإنسان သည် الحيوان ၏ جنس قريب ဖြစ်ပြီး၊ الضاحك သည် الإنسان ၏ الخاصة (ခေါ်) ယာယီဝိသေသ ဖြစ်သည်။

**الرسم الناقص** ဆိုသည်မှာ အဓိပ္ပါယ်သတ်မှတ်ရာတွင် جنس بعيد နှင့် الخاصة ကို ပေါင်းစည်းထားသော (တနည်းအားဖြင့် မျိုးစုကြီးနှင့် ယာယီစရိုက်လက္ခဏာတခုခုကို ပေါင်းစည်းထားသော) ပုံစံမျိုးကို ခေါ်ပါသည်။

ဥပမာ။ လူဆိုသည်မှာ အဘယ်နည်း။ လူ၏ အဓိပ္ပါယ်သတ်မှတ်ရာတွင် الجسم နှင့် الضاحك အား ပေါင်းစည်း၍ الجسم الضاحك ဟုဖွင့်ဆိုခြင်း။

သို့မဟုတ် လူ၏အဓိပ္ပါယ်သတ်မှတ်ရာတွင် الجوهر နှင့် الضاحك အား ပေါင်းစည်း၍ الجوهر الضاحك ဟု ဖွင့်ဆိုခြင်း။

(သီးသန့် الخاصة ကို သုံးစွဲထားသော အဓိပ္ပာယ်သတ်မှတ်ချက်ကို လည်း الرسم الناقص ဟု ခေါ်နိုင်ပါသည်။

ဥပမာ ။လူဆိုသည်မှာ အဘယ်နည်း။ လူ၏ အဓိပ္ပါယ်သတ်မှတ်ရာ တွင် الضاحك သီးသန့်ဖြင့် အဓိပ္ပါယ်သတ်မှတ်ခြင်း။)

ရှင်းလင်းချက်။ ။ الجسم သည် الإنسان ၏ جنس بعيد ဖြစ်ပြီး၊ الإنسان ၏ الخاصة သည် الضاحك (ယာယီစရိုက် လက္ခဏာ) ဖြစ်သည်။

## အဓိပ္ပါယ်သတ်မှတ်ခြင်းဆိုင်ရာ စည်းမျဉ်းများ

(၁) အဓိပ္ပါယ်သတ်မှတ်ခြင်းတစ်ရပ်သည် အဓိပ္ပါယ်သတ်မှတ်ခံ၏ အကြောင်းခြင်းရာ အနှစ်သာရ အချုပ်ကို ဖေါ်ပြရမည်။ ထိုသို့ဖေါ်ပြရာတွင် အဓိပ္ပါယ်သတ်မှတ်ပေးချက်နှင့် အဓိပ္ပါယ်သတ်မှတ်ခံပုဒ်တို့အကြား သဘောခြင်း တူညီရမည်။

(၂) အဓိပ္ပါယ်သတ်မှတ်ခြင်းသည် ကရွတ်ကင်းလျှောက်ပြီး (دَوْرٌ)သံသရာလည်နေခြင်းမျိုးမဖြစ်စေရ။ ထို့ပြင် အဓိပ္ပါယ်သတ်မှတ်ချက်ပေးရာတွင် အဓိပ္ပါယ်သတ်မှတ်ခံ (ကတ္တား)နှင့် စပ်သော ပုဒ်တစုံတရာ မပါစေရ။

ဥပမာ။ ဇိုက်ဒ်မည်သူနည်းဟုမေးသည့်အခါ အမ်ရ်၏သားဟုဖြေမည်။ အမ်ရ်မည်သူနည်းဟု မေးသည့်အခါ ဇိုက်ဒ်၏အဖေဟု ပြန်ဖြေမည်။

ဤနည်းအတိုင်း မျဉ်းဆိုသည် အဘယ်နည်း။

အလျားသာရှိပြီး အနံမရှိသော မျဉ်းကြောင်းကို မျဉ်းဟုခေါ်သည်ဟု အဓိပ္ပါယ်သတ်မှတ်ခြင်းမျိုးမဖြစ်ရ။ ယင်းသို့ အဓိပ္ပါယ်သတ်မှတ်၍လည်း မရပေ။ အဓိပ္ပါယ်သတ်မှတ်ပေးပုဒ်တွင် အဓိပ္ပါယ်သတ်မှတ်ခံပုဒ်ဖြစ်သော ((မျဉ်း)) ပါနေသောကြောင့် ဖြစ်သည်။

(၃) အဓိပ္ပါယ်သတ်မှတ်ရာ၌ အဟုတ်ပုဒ်ကို သုံးနိုင်၍ မဟုတ်ပုဒ်ကို မသုံးရ။

ဥပမာ။ ငရဲဆိုသည်မှာ သုခချမ်းသာလည်းမဟုတ်၊ ဆင်စရာ တန်ဆာလည်း မဟုတ်၊ မြင်စရာကောင်းသောအရာလည်း မဟုတ်၊ ကြားစရာကောင်းသောအရာလည်း မဟုတ်၊ သွားစရာလမ်းလည်း မဟုတ်၊ နေစရာ နေရာလည်း မဟုတ်၊ ရောက်စရာ စခန်းလည်း မဟုတ်၊ ရစရာ အရာဝတ္ထုလည်း မဟုတ် စသည်မျိုးဖြင့် မဟုတ်ပုဒ်ကို အသုံးပြု၍ အဓိပ္ပါယ်သတ်မှတ်ခြင်းမျိုး မပြုရ။

(၄) ဒွိဟဖြစ်ဖွယ်စကား၊ မတိကျသောစကား၊ တင်စားပြောသော စကားတို့ဖြင့် အဓိပ္ပါယ်သတ်မှတ်ခြင်း မပြုရ။

ဥပမာ။ အလှူပေးခြင်းဆိုသောစကားကို ဝေဿန္တရာလုပ်ခြင်းဟု အဓိပ္ပါယ်သတ်မှတ်ခြင်းမျိုးသည် တင်စားအဓိပ္ပါယ်သတ်မှတ်ခြင်းမျိုးဖြစ်၍ ရှောင်ကျဉ်အပ်သည်။

## လေ့ကျင့်ခန်း (၁၁)

၁။ المعرف နှင့် ၎င်း၏ အမျိုးအစားများကို ရှင်းပြပါ။

၂။ الرسم နှင့် الحدတို့၏ ခြားနားချက်ကို ရှင်းပြပါ။

၃။ الحد الناقص နှင့် الرسم الناقص တို့၏ ခြားနားမှုကို ရှင်းပြပါ။

၄။ الرسم الناقص အား ဥပမာနှင့် တကွ ရှင်းပြပါ။

## **التصديقات** (အဆို့များ၏ ဖွဲ့စည်းပုံကိုလေ့လာခြင်း)

تـصـورات (ပုဒ်များ) ၏ အခန်းပြီးဆုံးသွားပြီဖြစ်၍ ယခုဤနေရာမှ **تصديقات** ၏ အခန်း စတင်တော့မည်ဖြစ်ပါသည်။

**عـلـم** အမျိုးအစားများဖေါ်ပြရာတွင် တင်ပြခဲ့သော تـصديق (အဆို) ၏ဖွင့်ဆိုချက်ကို လိုရင်းတိုရှင်း ထပ်မံဖေါ်ပြရသော် အဆိုဟူသည် လောက၌ ဖြစ်ပျက်သော အဖြစ်အပျက်အကြောင်းအချက်များကို ဖေါ်ပြသော ဖေါ်ပြချက်ဖြစ်သည်။

ဥပမာ။ ဤစာရွက်သည် ဖြူသည်။
ယနေ့ မိုးရွာသည်။
ဦးမြသည် မောင်ဘ၏ အဖေဖြစ်သည်။
ရန်ကုန်သည် မြန်မာပြည်၏ မြို့တော်ဖြစ်သည်။
တိုင်းပြည် ငြိမ်းချမ်းလျှင် ပြည်သူတို့ ချမ်းသာမည်။

ယင်းဖေါ်ပြချက်အားလုံးသည် အကြောင်းကိစ္စတစ်စုံတရာကို ဆိုသည်ဖြစ်၍ ယင်းတို့ကို **قـــــــضية** (အဆို)များဟု ဆိုရာသည်။ ဤသို့ အကြောင်း ကိစ္စတစုံတရာကို ဖေါ်ပြပြောဆိုပြီး အသိကို ဆောင်ကြဉ်းရာ၌ ဖေါ်ပြသောအဆိုသည် ပေးထားသောအဖြစ်အပျက်တို့၏ သဘာဝနှင့်

ကိုက်ညီလျှင် ယင်းအဆို မှန်သည်။ ဖော်ပြသောအဆိုနှင့် ပေးထားသော အဖြစ်အပျက်၊ သဘာဝတို့နှင့် မကိုက်ညီ (ဝါ)ကွဲလွဲလျှင် ယင်းအဆိုသည် မှားသည်။ အမှန်အမှားသဘောသည် အချက်အလက်နှင့်မဆိုင်ပေ။ အချက်အလက် အဖြစ်အပျက်တို့သည် မှန်သည် မှားသည်ဟူ၍မရှိပေ။ ယင်းအချက်ကိုဖော်ပြသော ဖော်ပြချက် (ဝါ) အဆိုသာ မှားနိုင်၊မှန်နိုင် သည်။ ထိုအကြောင်းကြောင့်လည်း အဆိုဟူသည် မှန်နိုင်၊မှားနိုင်သော ဖော်ပြချက်ပင် ဖြစ်သည်ဟု ယုတ္တိဗေဒပညာရှင်တို့က ဆိုကြသည်။ အဆို၏ အနှစ်သာရသည် မှန်နိုင် မှားနိုင်ခြင်းပင်ဖြစ်၏။ မှန်ခွင့်၊မှားခွင့် မရှိသော ဖော်ပြချက်ကို အဆိုဟူ၍ မခေါ်နိုင်သကဲ့သို့ အဆိုတစ်ခုတည်းသည် တပြိုင်နက်တည်း မှန်လည်းမှန်၍ မှားလည်းမှားသည်ဟု ဆိုရန်မဖြစ်နိုင်ပေ။

**(قـــــــــضية)** အဆိုတို့၏ အမှန်အမှားသဘော၌ အဆိုတခုသည် မုချမှန်သည်လည်း ရှိမည်။ မှန်မည်မှားမည်ဒွိဟဖြစ်ရသည်လည်းရှိမည်။ မုချမှားသည်လည်းရှိမည်။ မည်သို့ပင်ဆိုစေ မှန်ခြင်းမှားခြင်းအပေါ် မူတည်၍သာ အဆိုများ ကွဲပြားခြားနားရမည်။

## القضية (အဆို) နှစ်မျိုးရှိပါသည်။

## (၁) حملية (၂) شرطية

အဆိုများသည် သီးခြားဝတ္ထုပစ္စည်း၊ အကြောင်းကိစ္စတရပ်ကိုသာ ညွှန်းဆို ဖော်ပြလျှင် ယင်းအဆိုသည် သာမန်အဆိုဖြစ်၍ အကြောင်းကိစ္စ နှစ်ခု သို့မဟုတ် နှစ်ခုထက်အများကို ညွှန်းဆိုဖော်ပြလျှင်ကား ယင်းအဆို သည် ပေါင်းစပ်အဆို ဖြစ်သည်ဟု အကြမ်းအားဖြင့် ဆိုအပ်ပါသည်။

## (၁) حملية (သာမန်အဆို)

**حـمـلية** သည် ပုဒ်နှစ်ခုဖြင့် ပေါင်းစည်းထားသည်။ ကတ္တားပုဒ်နှင့် ဝါစကပုဒ်တို့ဖြစ်ပါသည်။ حـملية တွင် ဝါစက်၏ ဖြစ်ခြင်းနှင့်ပျက်ခြင်းသည် ကတ္တားပုဒ်အတွက်ဖြစ်မည်။ ဥပမာ ---

(၁) زيد كاتب ဟူသော ဥပမာတွင်ပါဝင်သော كاتب (ဝါစက်ပုဒ်) ၏ ဖြစ်ခြင်းသည် زيد (ကတ္တားပုဒ်) အတွက် ဖြစ်သည်။

(၂) زيـد ليـس بـكـاتب ဟူသော ဥပမာတွင်ပါဝင်သော كـاتب (ဝါစက်ပုဒ်) ၏ မဖြစ်ခြင်းသည် زيد (ကတ္တားပုဒ်) အတွက် ဖြစ်သည်။

## (၂) شرطية (ပေါင်းစပ်အဆို)

သာမန်အဆိုနှစ်ခုကိုယူ၍ အဆိုသစ်တစ်ခုကို ဖွဲ့စည်းလျှင် ယင်းအဆိုသစ်ကို شـــرطية (ပေါင်းစပ်အဆို)ဟု ခေါ်သည်။ နောက်အဆိုအပိုင်း၏ ဖြစ်ခြင်း၊ ပျက်ခြင်းသည် ရှေ့အဆိုအပိုင်း၏ ဖြစ်ခြင်း၊ ပျက်ခြင်းအပေါ်တွင် မူတည်နေသည်။ ဥပမာ ---

(၁) إن كـانـت الشـمــس طـالـعة فـالـنهار موجود နေထွက်လျှင် နေ့ခင်း ရှိမည်ဟုဆိုရာတွင် နေ့ခင်း ရှိခြင်းသည် နေထွက်ခြင်းအပေါ် မူတည်နေသည်။

(၂) إن كـان الليل موجودا فالشمس ليست بطالعة ညရှိလျှင် နေမထွက်ပါဟု ဆိုရာတွင် နေမထွက်ခြင်းသည် ညဖြစ်ခြင်းအပေါ် မူတည်နေသည်။

ပေါင်းစပ်အဆို၏ မှန်ခြင်းမှားခြင်းသည် ယင်း၌ ပါသောအဆိုအပိုင်းတို့၏ မှန်ခြင်း မှားခြင်းပေါ် မူတည်သည်။

သာမန်အဆိုဟုဆိုရာ၌ သာမန်အဆိုသည် တစ်မျိုးတစ်စားတည်း မဟုတ်၊ အမျိုးမျိုးအစားစား ရှိပြန်သည်။

ဦးစွာပထမ အဟုတ်အဆို နှင့် မဟုတ်အဆိုဟူ၍ သာမန်အဆို (حملية) နှစ်မျိုးကွဲပါသည်။

(၁)الحملية الموجبة (အဟုတ်သာမန်အဆို) ➤ زيد كاتب

(၂) الحملية السالبة (မဟုတ်သာမန်အဆို)➤ زيد ليس بكاتب

အဟုတ်အဆို နှင့် မဟုတ်အဆိုဟူ၍ ပေါင်းစပ်အဆို (شــــــرطية) သည်လည်း နှစ်မျိုးကွဲပါသည်။

အဟုတ်အဆိုဖြစ်ပါက ၎င်းကို الشرطية الموجبة ဟုခေါ်ရပြီး၊ မဟုတ်အဆိုဖြစ်ပါက ၎င်းကို الشرطيةالسالبة ဟု ခေါ်ရမည်။

## حملية (သာမာန်အဆို) ၏ ရှေ့အဆိုပိုင်းနှင့် နောက်အဆိုပိုင်းတို့၏ အမည်များ

القضية الحملية (သာမာန်အဆို) ၏ ရှေ့အဆိုပိုင်းကို موضوع ဟု ခေါ်ပြီး၊ နောက်အဆိုပိုင်းကို محمول ဟုခေါ်ပါသည်။

زيد كاتب ဟူသော ဥပမာ၌ زيد အား موضوع ဟုခေါ်ပြီး၊ كاتب အား محمول ဟု ခေါ်ပါသည်။

## شرطية (ပေါင်းစပ်အဆို) ၏ ရှေ့အဆိုပိုင်း နှင့် နောက်အဆိုပိုင်းတို့၏ အမည်များ

القضية الشرطية (ပေါင်းစပ်အဆို) ၏ရှေ့အဆိုပိုင်းကို مقدم ဟု ခေါ်ပြီး၊ နောက်အဆိုပိုင်းကို تالى ဟုခေါ်ပါသည်။

## လေ့ကျင့်ခန်း (၁၂)

၁။ قضية ကို အဓိပ္ပါယ်ဖွင့်ဆိုပြီးနောက် الحملية ၏ အဓိပ္ပါယ်ကို ဖွင့်ဆိုပြပါ။

၂။ القضية الحملية ၏ အစိတ်အပိုင်းများ၏ အမည်များကို ဖော်ပြပါ။

၃။ الشرطية ကို ဥပမာနှင့်တကွ အဓိပ္ပါယ်ဖွင့်ဆိုပါ။

၄။ الشرطية ၏ ပထမအစိတ်အပိုင်းနှင့် ဒုတိယအစိတ်အပိုင်းကို မည်သို့ခေါ်ဆိုရပါသနည်း။

## ကတ္တားပုဒ်၏ အခြေအနေ အပြောင်းအလဲပေါ် မူတည်၍ သာမန်အဆို القضية الحملية (၄)မျိုးရှိပါသည်။

(၁) القضية الشخصية (ပုဂ္ဂိုလ်ရေးပြအဆို) ဥပမာ ➢ زيد عالم

(၂) القضية الطبعية (သဘောတရားပြအဆို) ဥပမာ ➢ الإنسان نوع

(၃) القضية المحصورة (ကန့်သတ်ချက်ပြအဆို)

ဥပမာ ➢ كل إنسان حيوان وبعض الحيوان إنسان ولاشيء من الإنسان بحجر

(၄) القضية المهملة (ကန့်သတ်မဲ့အဆို) ဥပမာ ➢ الإنسان حيوان

## အခ်ိဳ႕ပိုင္းဆိုင္ရာ ဖြင့္ဆိုခ်က္မ်ား ႏွင့္ ဥပမာမ်ား

(၁) القضية الشخصية (ဝါ)ပုဂၢိဳလ္ေရးျပ အဆိုဟူသည္ ၎င္းအဆိုတြင္ ပါဝင္ေသာကတၱားပုဒ္သည္ တိက်ေသာ သီးသန္႔ပုဂၢိဳလ္တစ္ဦးျဖစ္ေသာ အဆိုမ်ိဳး ျဖစ္ပါသည္။ ဥပမာ ➢ زيد عالم

ေမးခြန္း။ ။ ဤအမ်ိဳးအစားကိုအဘယ္ေၾကာင့္ الشخصية ဟု အမည္ ေပးထားရပါသနည္း။

အေျဖ။ ။ ဤအမ်ိဳးအစားကို الشخصية ဟုအမည္ေပးထားရျခင္းမွာ موضوع (ဝါ) ကတၱားပုဒ္သည္ الشخص المعيّن (ဝါ) တိက်ေသာ သီးသန္႔ပုဂၢိဳလ္ျဖစ္ေနေသာေၾကာင့္ပင္။

(၂) القضية الطبعية (သေဘာတရားျပအဆို) ဟူသည္ ၎င္းအဆိုတြင္ ပါဝင္ေသာ ကတၱားပုဒ္ကို ဝါစက္ပုဒ္ျဖင့္ တြဲဖက္ေပးျခင္းသည္ ကတၱားပုဒ္ ႏွင့္သက္ဆိုင္ေသာသူတို႔ကို မရည္ၫႊန္းဘဲ ကတၱားပုဒ္၏ သေဘာတရား ကိုသာ ရည္ၫႊန္းေသာ အဆိုမ်ိဳးကို သေဘာတရားျပအဆိုဟုေခၚပါသည္။

ဥပမာ ➢ الإنسان نوع

ဤ ဥပမာ၌ပါဝင္ေသာ الإنسان သည္ الإنسان ၏ مفهوم ကို သာလွ်င္ ဆိုလိုသည္။ الإنسان ၏ أفراد မ်ားအား ဆိုလိုျခင္း မဟုတ္ေပ။

(၃) القضية المحصورة (ကန္႔သတ္ခ်က္ျပအဆို) ဟူသည္ ၎င္းအဆို တြင္ပါဝင္ေသာ ကတၱားပုဒ္ကို ဝါစက္ပုဒ္ျဖင့္ တြဲဖက္ေပးျခင္းသည္ ကတၱား ပုဒ္၏ သေဘာတရားကို မရည္ၫႊန္းဘဲ ကတၱားပုဒ္ႏွင့္ သက္ဆိုင္ေသာ သူတို႔ကိုသာ ရည္ၫႊန္းေသာ အဆိုမ်ိဳး ျဖစ္ပါသည္။ ထို႔အတူ ၎င္းအဆိုတြင္ ကတၱားပုဒ္၏ အေရအတြက္ကိုပါ ပူးတြဲေဖာ္ျပထားမည္ ျဖစ္သည္။

ဥပမာ ➢ كل إنسان حيوان

➢ لا شيء من الإنسان بحجر

➢ بعض الحيوان ليس بإنسان

(ဤ ဥပမာ၌ပါဝင်သော الإنسان သည် أفراد ကို သာလျှင် ဆိုလိုသည်။ الإنسان ၏ مفهوم ကို ဆိုလိုခြင်းမဟုတ်ပေ။ )

မေးခွန်း။ ။ ဤအမျိုးအစားကိုအဘယ်ကြောင့် المحصورة ဟု အမည်ပေးထားရပါ သနည်း။

အဖြေ။ ။ ဤအမျိုးအစားကို المحصورة ဟု အမည်ပေးထားရခြင်းမှာ- (كل , بعض , لاشيء) စသည့် ကန့်သတ်ချက်ပြဝိဘတ် များပါဝင်နေသောကြောင့်ဖြစ်သည်။

မေးခွန်း။ ။ အရေအတွက် နည်းများမှုအတိုင်းအတာအား ဖေါ်ပြပေးသော ဝိဘတ်အား မည်သို့ ခေါ်ပါသနည်း။

အဖြေ။ ။ لا شيء ، بعض ، كل အစရှိသည့် ကတ္တားပုဒ်၏ အရေအတွက် နည်းများခြင်း၏ ကန့်သတ်မှုအား ဖေါ်ပြပေးသော حرف(ဝိဘတ်)ကို حرف السور (ကန့်သတ်ချက်ပြဝိဘတ်) ဟုခေါ်ပါသည်။ السور ၏ အဓိပ္ပါယ်မှာ တံတိုင်းဖြစ်သည်။ တံတိုင်းသည် မိမိ၏ အတွင်း၌ရှိသော အရာများအား ဝန်းရံထားသကဲ့သို့ حرف السور သည်လည်း موضوع (ကတ္တားပုဒ်) ၏ أفراد များအား (အချို့နှင့်သာ သက်ဆိုင်သည်။ အားလုံးနှင့် သက်ဆိုင်သည်။ စသည့် ဖေါ်ပြချက်များဖြင့်) ဝန်းရံထားပါသည်။

القضية المحصورة **(ကန့်သတ်ချက်ပြအဆို)** **လေးမျိုးရှိသည့်အနက်** **တစ်ခုတိုင်းအတွက်** حرف السور **(ကန့်သတ်ချက်ပြဝိဘတ်)**များ ရှိပါသည်။

(၁) الموجبة الكلية (အဟုတ်ယေဘုယျအဆို)အတွက်ဝိဘတ်မှာ كلّ

ဥပမာ ➢ كل إنسان حيوان

(၂) الموجبة الجزئية (အဟုတ်ကေဝိဒအဆို)အတွက်ဝိဘတ်မှာ بعض/واحد

ဥပမာ ➢ بعض الحيوان إنسان

(၃) السالبة الكلية (မဟုတ်ယေဘုယျအဆို)အတွက်ဝိဘတ်မှာ لا شيء

ဥပမာ➢ لا شئ من الإنسان بحجر

(၄) السالبة الجزئية (မဟုတ်ကေဝိဒအဆို)အတွက်ဝိဘတ်မှာ ليس كل / ليس بعض / لاواحد

ဥပမာ ➢ بعض الحيوان ليس بإنسان

စသော ကန့်သတ်ချက်ပြဝိဘတ်များကို နေရာတကျ သုံးစွဲနိုင်ပါသည်။

(၄) القضية المهملة (ကန့်သတ်ချက်မဲ့အဆို) ဟူသည် ၎င်းအဆိုတွင် ပါဝင်သော ကတ္တားပုဒ်ကိုဝါစကပုဒ်ဖြင့် တွဲဖက်ပေးခြင်းသည် ကတ္တားပုဒ်၏ သဘောတရားကို မရည်ညွှန်းဘဲ ကတ္တားပုဒ်နှင့်သက်ဆိုင်သောသူတို့ကိုသာ ရည်ညွှန်းသော အဆိုမျိုး ဖြစ်ပါသည်။ သို့သော် ၎င်းအဆိုတွင် ကတ္တားပုဒ်၏ အရေအတွက် နည်းများမှုအတိုင်းအတာကို မဖော်ပြထားပါ။

ဥပမာ ➢ الإنسان كاتب

လူသည် ရေးသားသူဖြစ်သည်ဟုဆိုရာတွင် လူအချို့သည်၊ လူအားလုံးသည်၊ လူတစ်ယောက်သည် စသဖြင့် ကန့်သတ်ချက်ပြဝိဘတ်များ မဖော်ပြထားသောအဆိုမျိုး ဖြစ်ပါသည်။

မေးခွန်း။ ။ ဤအမျိုးအစားကိုအဘယ်ကြောင့် المهملة ဟု အမည်ပေး ထားရပါသနည်း။

အဖြေ။ ။ အရဗီစာပေ၌ اِهـــمـــال ၏အဓိပ္ပါယ်မှာ အရာတစ်ခုကို အချည်းအနှီးဖြစ်သည်ဟု သတ်မှတ်ခြင်းဖြစ်သည်။ ဖော်ပြပါ အဆိုတွင် ကတ္တားပုဒ်ကို အရေအတွက်ကန့်သတ်ချက်မရှိဘဲ အချည်းအနှီးလွှတ်ထားသောကြောင့် ၎င်းအဆိုကို المهملة ဟု ခေါ်သည်။

## လေ့ကျင့်ခန်း (၁၃)

၁။ القضية الحملية ၌ အမျိုးအစားမည်မျှရှိသနည်း။

၂။ ၎င်း၏ အမျိုးအစားအားလုံးကို ဥပမာနှင့် တကွ ရေးပါ။

၃။ ကတ္တားပုဒ်၏ အရေအတွက်ကို ဖော်ပြပေးမည့် حـــــــرف ကို မည်သို့ ခေါ်ပါသနည်း။

၄။ المهملة နှင့် الطبيعية တို့၏ ကြားရှိ ခြားနားချက်ကို ဖော်ပြပါ။

၅။ ကန့်သတ်ချက်ပြ ဝိဘတ်ပုံစံလေးမျိုးကို ရေးပါ။

## موضوع (ကတ္တားပုဒ်) တည်ရှိသည့် အခြေအနေပေါ်မူတည်၍ القضية الحملية (သာမန်အဆို)၏ အမျိုးအစားများ

(၁) الخارجية (ပြင်ပရှိကတ္တားပုဒ်)

(၂) الذهنية (သဘောတရားသာရှိသော ကတ္တားပုဒ်)

(၃) الحقيقية (မှေစစ်ရှိသော ကတ္တားပုဒ်)

(၁) الــــخــــارجية ဆိုသည်မှာ ကတ္တားပုဒ်သည် ပြင်ပ၌ရှိသော (တနည်း အကောင်အထည်ပြ၍ ရနိုင်သော) သာမန်ယေဘုယျအဆိုမျိုးကို ခေါ်သည်။

ဥပမာ ➢ الإنسان كاتب ဤဥပမာ၌ موضوع သည် الإنسان ဖြစ်သည်။ الإنسـان ကိုအကောင်အထည်ပြ၍ ရနိုင်သလို ၎င်း၏ كاتب ဖြစ်ခြင်းကိုလည်း အကောင်အထည်ပြ၍ ရနိုင်သည်။

(၂) الــــذهــــنية ဆိုသည်မှာ ကတ္တားပုဒ်သည် စိတ်ကူး၍သာ ရနိုင်သော သာမာန်ယေဘုယျအဆိုမျိုးကို ခေါ်သည်။

ဥပမာ ➢ الإنسـان كـلـي ဤဥပမာ၌ الإنســان အား كـلـي ဖြစ်ကြောင်း သတ်မှတ်ခြင်းခံရသည်။ الإنســــان ကို အကောင်ထည်ပြ၍ ရနိုင်သော်လည်း ၎င်း၏ كـــــلــــي ဖြစ်ခြင်းကို အကောင်ထည်ပြ၍ မရပါ။ စိတ်ကူး၍သာ ရနိုင်ပါသည်။

(၃) الــحـقـيـقـية ဆိုသည်မှာ مــوضــوع သည် (အတိတ်၊ ပစ္စုပ္ပန်၊ အနာဂတ် ) အချိန်ကာလ သုံးခုအနက်မှ မည်သည့်အချိန်ကာလ၌မဆို (ပြင်ပ၌) ရှိနိုင်သော قضية အား ခေါ်သည်။

ဥပမာ➢ كل من قال لا إله إلا الله دخل الجنة

ဤဥပမာ၌ مــوضــوع ၏ ပြင်ပ၌ ရှိနေခြင်းသည် تــقــديــرا အရ (တနည်း ဖုံးကွယ်နေသော ကိစ္စ)ဖြစ်သောကြောင့် ကြိုတင်၍ တိတိကျကျ သတ်မှတ်၍ မရနိုင်ပါ။ ဆိုလိုသည်မှာ مـوضـوع သည် (အတိတ်၊ ပစ္စုပ္ပန်၊ အနာဂတ်) အချိန်ကာလသုံးခုအနက်မှ မည်သည့်အချိန်ကာလ၌မဆို (ပြင်ပ၌) ရှိနိုင် ပါသည်။

القضية
الحملية
الشرطية
متصلة
منفصلة
شخصية
محصورة
مهملة
طبعية

القضية باعتبار وجود الموضوع
حقيقة
خارجية
ذهنية

## လေ့ကျင့်ခန်း (၁၄)

၁။ الموضوع (ကတ္တားပုဒ်)၏အမျိုးအစား မည်မျှရှိသနည်း။ ၎င်းနောက် ကတ္တားပုဒ်၏ တည်ရှိနေခြင်းပေါ် အခြေခံ၍ القضية الحملية မည်မျှရှိသနည်း။

၂။ القضية الخارجية နှင့် الذهنية တို့၏ ခြားနားချက်ကို ဖော်ပြပါ။

၃။ القضية الحقيقية ဆိုသည်မှာ အဘယ်နည်း။

၄။ 'الإنسان نوع' ဆိုသည်မှာ قضية ذهنية ဖြစ်ပါသလား (သို့) خارجية ဖြစ်ပါသလား။

## أقسام القضية باعتبار كون حرف السلب جزءا منها

### အငြင်းဝိဘတ်သည် ကတ္တားပုဒ်နှင့် ဝါစကံပုဒ်တို့၏ အစိတ်အပိုင်း ဖြစ်ခြင်း၊ မဖြစ်ခြင်းအပေါ် အခြေခံ၍ အဆို၏အမျိုးအစားများ

حرف السلب (အငြင်းဝိဘတ်) သည် القضية ၏ جزء ဖြစ်ခြင်း၊ မဖြစ်ခြင်းအပေါ် အခြေခံ၍ အဆိုနှစ်မျိုးရှိပါသည်။ ၎င်းတို့မှာ---

(၁) مَعْدُوْلَةٌ (၂) مُحَصَّلَةٌ တို့ဖြစ်ကြသည်။

(၁) အငြင်းဝိဘတ်သည် ယေဘုယျအဆို၏ အဓိကအစိတ်အပိုင်း တစ်ခု ဖြစ်ပါက ထို အဆိုကို معدولة (ဗီဇပြောင်းအဆို) ဟု ခေါ်သည်။

မေးခွန်း။ ။ ဤ အဆိုအား အဘယ်ကြောင့် معدولة (ဗီဇပြောင်းအဆို) ဟု ခေါ်ပါသနည်း။

အဖြေ။ ။ (عن) عدل ၏ အဓိပ္ပာယ်မှာ တိမ်းစောင်းခြင်းဖြစ်သည်။ ဤ القضية ၌ပါသော حرف السلب (အငြင်းဝိဘတ်) သည် ဝိဘတ်အဖြစ်မှ ဗီဇပြောင်း၍ နာမ်၏အစိတ်အပိုင်း ဖြစ်သွားသောကြောင့် ဤ القضية အား معدولة (ဗီဇပြောင်းအဆို) ဟုခေါ်သည်။

(၂) حرف السلب (အငြင်းဝိဘတ်)သည် ယေဘုယျအဆို၏ အဓိကကျသော အစိတ်အပိုင်း တစ်ခုမဟုတ်ပါက ထို အဆိုကို محصّلة (ဗီဇမပြောင်းအဆို) ဟု ခေါ်သည်။

ဤ القضية ၌ တခါတရံ حرف السلب လာနိုင်သော်လည်း ယေဘုယျအဆို၏ အဓိကကျသော အစိတ်အပိုင်းတစ်ခု အဖြစ် မလာဘဲ موضوع နှင့် محمول အကြားရှိ ပတ်သက်မှုအား ပယ်ဖျက်ရန်သာ လာမည်။ (တနည်းအားဖြင့် ဝိဘတ်သည် နာမ်၏အစိတ်အပိုင်းတစ်ခုအဖြစ် မပြောင်းသွားသောအဆိုမျိုး ဖြစ်ပါ သည်။)

## القضية المعدولة (ဗီဇပြောင်းအဆို) ၏ အမျိုးအစားများ

القضية المعدولة အငြင်းဝိဘတ်သည် ကတ္တားပုဒ် (သို့မဟုတ်) ဝါစကပုဒ်တို့၏ အစိတ် အပိုင်းတစ်ခုခုအဖြစ် ပူးတွဲသည့် ပုံစံ (၃) မျိုးရှိပါ သည်။

(၁) معدولة الموضوع (အငြင်းဝိဘတ်သည် ကတ္တားပုဒ်၏ အစိတ်အပိုင်းဖြစ်သည့်ပုံစံ)

ဥပမာ ➢ اللا حى جماد

(၂) معدولة المحمول (အငြင်းဝိဘတ်သည် ဝါစက်ပုဒ်၏ အစိတ်အပိုင်း ဖြစ်သည့်ပုံစံ)

ဥပမာ ➢ الجماد لا عالم

(၃) معدولة الطرفين (အငြင်းဝိဘတ်သည် ကတ္တားပုဒ် နှင့် ဝါစက်ပုဒ် နှစ်ခုစလုံး၏အစိတ်အပိုင်း ဖြစ်သည့်ပုံစံ)

ဥပမာ ➢ اللاحى لا عالم

ဤသုံးမျိုးအနက်မှ တစ်ခုတိုင်းသည် موجبة (အဟုတ်အဆို)နှင့် سالبة (မဟုတ် အဆို)ဟူ၍ နှစ်မျိုးစီ ပြန်ကွဲကြပါသည်။

အထက်တွင်ဖော်ပြခဲ့သော القضية المعدولة သုံးမျိုး၏ဥပမာ အားလုံးသည် အဟုတ်အဆို၏ ဥပမာများ ဖြစ်ကြသည်။

السالبة (မဟုတ်အဆို) ၏ ဥပမာများမှာ---

(١) معدولة الموضوع السالبة ➢ اللاحى ليس بعالم

(٢) معدولة المحمول السالبة ➢ العالم ليس بلاحي

(٣) معدولة الطرفين السالبة ➢ اللاحى ليس بلاجماد

**المحصّلة (ခ) မီဇမပြောင်းသော အဆိုသည်လည်း အဟုတ်အဆိုနှင့် မဟုတ်အဆိုဟူ၍ နှစ်မျိုးကွဲပါသည်။**

(١) المحصّلة الموجبة ➢ زيد كاتب

(٢) المحصّلة السالبة ➢ زيد ليس بكاتب

## လေ့ကျင့်ခန်း (၁၅)

၁။ المعدولة နှင့် المحصلة တို့၏ ဖွင့်ဆိုချက်ကို ရေးပါ။

၂။ القضية المعدولة ၏ အမျိုးအစားမည်မျှရှိသနည်း။

၃။ القضية المعدولة ၏ အမျိုးအစား(၃)မျိုးကို ရှင်းပြပါ။

၄။ 'زيد قائم' သည် معدولة နှင့် محصلة နှစ်ခုထဲမှ မည်သည့် အမျိုးအစားမှ ဖြစ်သနည်း။

၅။ 'وماليس بحدث ليس بجنس' ဟူသော စာသားသည် معدولة ဖြစ်ပါသလား (သို့) محصلة ဖြစ်ပါသလား။

## القضية الشرطية ပေါင်းစပ်အဆို၏ အမျိုးအစားများ

القضية အမျိုးအစားများဖြစ်သည့် ( حملية နှင့် شرطية ) အနက်မှ ဤနေရာတွင် شرطية အကြောင်း အစပြုမည် ဖြစ်သည်။

تصديقات ၏ အခန်းအစတွင် တင်ပြခဲ့ပြီးဖြစ်သော شرطية ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်ကို တဖန်ပြန်လည်တင်ပြလိုပါသည်။

➢ သာမန်အဆိုနှစ်ခုကိုယူ၍ အဆိုသစ်တစ်ခုကို ဖွဲ့စည်းလျှင် ယင်း အဆိုသစ်ကို شرطية (ပေါင်းစပ်အဆို)ဟု ခေါ်သည်။ နောက်အဆိုအပိုင်း၏ ဖြစ်ခြင်း၊ ပျက်ခြင်းသည် ရှေ့အဆိုပိုင်း၏ ဖြစ်ခြင်း၊ ပျက်ခြင်းအပေါ်တွင် မူတည်နေသည်။

(၁) إن كانت الشمس طالعة فالنهار موجود နေထွက်လျှင် နေ့ခင်းရှိမည်ဟုဆိုရာတွင် နေ့ခင်းရှိခြင်းသည် နေထွက်ခြင်းအပေါ် မူတည် နေသည်။

القضية الشرطية ပေါင်းစပ်အဆို၏ ပထမအစိတ်အပိုင်းအား مقدم ဟုခေါ်ပြီး၊ ဒုတိယအစိတ်အပိုင်းအား التالي ဟုခေါ်ပါသည်။

ယခု القضية الشرطية ၏ အမျိုးအစားများအား ဆက်လက် တင်ပြသွားမည်ဖြစ်သည်။

**القضية الشرطية သည်နှစ်မျိုးရှိပါသည်။**

**(၁) متّصلة (ဆက်နွယ်အဆို)**

**(၂) منفصلة (ခွဲခြားအဆို)**

## متّصلة (ဆက်နွယ်မှုပြအဆို)

အဆိုနှစ်ခုအကြားတွင် اتّصال (ခ) တွဲဖက် ဖြစ်ပေါ်မှုအား သို့မဟုတ် عـــدم الاتّـــصــــال (ခ) တွဲဖက်ဖြစ်ပေါ်မှု မရှိခြင်းကို ဖေါ်ပြပေးသော ပေါင်းစပ်အဆိုကို متصلة (ဆက်နွယ်မှုပြအဆို) ဟု ခေါ်သည်။

الاتصال ၏ ဥပမာ ➢ إن كانت الشمس طالعة فالنهار موجود

عدم الاتصال ၏ ဥပမာ ➢ إن كان الليل موجودا فالشمس ليست بطالعة

## القضية الشرطية المتصلة သည် နှစ်မျိုးရှိပါသည်။

(၁) متصلة لزومية (ကတ္တားနှင့်ဝါစက်တို့၏အရင်းခံဆက်နွယ်မှုရှိအဆို)

(၂) متصلة اتفاقية (ကတ္တားနှင့်ဝါစက်တို့၏အရင်းခံမဟုတ်သော ဆက်နွယ်မှုရှိအဆို)

(၁) متـصـلة لزومية ➢ ပထမအဆိုနှင့် ဒုတိယအဆို အကြားတွင် အရင်းခံပတ်သက်မှု တစ်ခုခုရှိနေသောကြောင့် ဒုတိယအဆို၏ ဖြစ်ပျက်ခြင်းသည် ပထမအဆို၏ ဖြစ်ပျက်ခြင်းအပေါ်၌ မူတည်နေသည်ဟု သတ်မှတ်ပြောဆိုထားသော القضية မျိုး ဖြစ်သည်။

ဥပမာ ➢ إن كانت الشمس طالعة فالنهار موجود

နေထွက်ခြင်းသည် နေ့ဖြစ်ခြင်း၏ အကြောင်းခံဖြစ်နေခြင်းသည် သာလျှင် ၎င်းတို့အကြား၌ရှိသော ပတ်သက်မှု ဖြစ်ပါသည်။

(၂) متـصـلة اتفـاقية ➢ ပထမအဆိုနှင့် ဒုတိယအဆို အကြားတွင် မည်သည့်အရင်းခံ ပတ်သက်မှုမျှမရှိဘဲ သီးသန့် တိုက်ဆိုင်မှုကြောင့်သာ ဒုတိယအဆို၏ ဖြစ်ပျက်ခြင်းသည် ပထမအဆို၏ ဖြစ်ခြင်း အပေါ်၌ မူတည်နေသည်ဟု သတ်မှတ်ပြောဆိုထားသော القضية မျိုးဖြစ်ပါသည်။

ဥပမာ ➢ إن كان الطالب فى الفصل فالخادم فى المكتب

## منفصلة (ခွဲခြားအဆို)

التـنـافـى الـقـضـية الشـرطـية တွင်ပါဝင်သော အဆိုနှစ်ခုအကြားတွင် သို့မဟုတ် عدم التنافى ကို ဖေါ်ပြမည်ဆိုပါက ထို القضية الشرطية အား منفصلة ဟုခေါ်သည်။

## التنافى နှင့် عدم التنافى ၏ သဘောတရား

التـنـافى ဟူသည်မှာ အဆိုနှစ်ခုသည် တစ်ခုနှင့်တစ်ခု ဆန့်ကျင်ဘက် ဖြစ်နေခြင်း (သို့မဟုတ်) တစ်ခုကို တစ်ခု ပယ်ကြခြင်းဖြစ်သည်။ ဆိုလို သည်မှာ တစ်ခုသည် အခြားတစ်ခု၏ အပဦရှိသည်ဟု ပြောလျှင်လည်း မှန်၏။

عـدم التـنـافى ဟူသည်မှာ အဆိုနှစ်ခုသည် တစ်ခုနှင့် ဆန့်ကျင်ဘက် မဖြစ်ခြင်း၊ (သို့မဟုတ်) တစ်ခုနှင့် တစ်ခုသည် ပယ်ခြင်းသဘောကို မဆောင် ခြင်း ဖြစ်သည်။ ဆိုလိုသည်မှာ တစ်ခုနှင့် တစ်ခုသည် ဆုံဆည်းနိုင်ပါသည်။

**التنافى** ၏ ဥပမာ ➢ **هذا الشئ إماإنسان و إما حجر**

**عدم التنافى** ၏ ဥပမာ ➢ **و ليس هذا الشئ إما ضاحكا و إما كاتبا**

**القضية الشرطية المنفصلة** သည် (၃) မျိုးရှိပါသည်။

(၁) **المنفصلة الحقيقية** (တိုက်ရိုက်ဆန့်ကျင် အဆို)

(၂) **المنفصلة مانعة الجمع** (တပြိုင်တည်မှန်ခြင်းအတွက်သာ ဆန့်ကျင်အဆို)

(၃) **المنفصلة مانعة الخلو** (တပြိုင်တည်းမှာခြင်း အတွက်သာဆန့်ကျင်အဆို)

(၁) **المنفصلة الحقيقية** ➢၏ ဖွင့်ဆိုချက်သည် နှစ်ပိုင်းရှိပါသည်။ ပထမအပိုင်းသည် ပယ်ခြင်းသဘောဆောင်သည့် အပိုင်းဖြစ်ပြီး၊ ဒုတိယ အပိုင်းသည် ပယ်ခြင်းသဘောကို မဆောင်သည့် အပိုင်းဖြစ်ပါသည်။

## المنفصلة الحقيقية ၏ ဖွင့်ဆိုချက်ပထမအပိုင်း

الـقـضية الشرطية ၏ مـقدم နှင့် تـالى အကြားရှိ ပယ်ခြင်းသဘော ဆောင်သည့် ရွေးခွင့် (ဆန့်ကျင်ဘက်ဖြစ်ခြင်း) သည် တပြိုင်တည်းမှန်ခြင်း၊ တပြိုင်တည်းမှားခြင်း စသည့် အခြေအနေနှစ်ရပ်လုံး နှင့် သက်ဆိုင်မည်။

ဥပမာ(၁) ➤ العدد إما زوج أو فرد

ရှင်းလင်းချက်။ ။ ဤဥပမာကို လေ့လာသုံးသပ်ကြည့်ပါက အခြေအနေနှစ်ရပ်ကို တွေ့ရမည်။ مـقـدم (ပထမအဆို) နှင့် تــالـى (ဒုတိယအဆို) ၏ တပြိုင်တည်းမှန်သော အခြေအနေနှင့် တပြိုင်တည်းမှားသော အခြေအနေဟူ၍ အခြေအနေနှစ်မျိုးတွေ့ရမည်။ အခြေအနေနှစ်ရပ်လုံးတွင် ပယ်ခြင်းသဘောကို ဆောင်နေပါသည်။

စုံဂဏန်း နှင့် မဂဏန်းသည် အခြေအနေတိုင်းတွင် ပယ်ခြင်းသဘောကို ဆောင်နေပါသည်။ ဆိုလိုသည်မှာ ၎င်းတို့အကြား ဆန့်ကျင်ဘက် မဖြစ်သည့်အခြေအနေဟူ၍ အလျဉ်းမရှိနိုင်ပါ။

ပထမအခြေအနေ။ ။ အတူတပြိုင်တည်းမှန်ခြင်းကို လေ့လာသုံးသပ်ကြည့်ပါ။ ဂဏန်းများတွင် စုံဂဏန်းလည်းဖြစ် မဂဏန်းလည်းဖြစ်သော ဂဏန်းမရှိသည်ကို တွေ့ရမည်။ ထို့ကြောင့်အတူတပြိုင်တည်းမှန်ခြင်းအတွက် ဆန့်ကျင်ဘက်ဖြစ်နေပါသည်။

ဒုတိယအခြေအနေ။ ။ နှစ်ခုလုံးတပြိုင်တည်းမှားခြင်းကို လေ့လာသုံးသပ်ကြည့်ပါ။ ဂဏန်းများတွင် စုံလည်းဟုတ် မလည်းဟုတ်သောဂဏန်းလုံးဝမရှိသည်ကို တွေ့ရမည်။ ထို့ကြောင့် နှစ်ခုလုံး တပြိုင်တည်း မှားခြင်းအတွက်လည်း ဆန့်ကျင်ဘက်ဖြစ်နေပါသည်။

## المنفصلة الحقيقية ၏ ဖွင့်ဆိုချက် ဒုတိယအပိုင်း

قضية ပေါင်းစပ်ခဲ့ခြားအဆို၏ အစိတ်အပိုင်းနှစ်ခုအနက် مقدم (ပထမအဆို) နှင့် تالى (ဒုတိယအဆို) အကြားရှိ ပယ်ခြင်းသဘောကို မဆောင်သည့် ရွေးခွင့်သည် အတူတပြိုင်တည်းမှန်ခြင်း၊ အတူတပြိုင်တည်း မှားခြင်း စသည့် အခြေအနေနှစ်ရပ်လုံး နှင့် သက်ဆိုင်မည်။

ဥပမာ ➤ وليس هذا الشئ إما إنسانا وإما حيوانا

ရှင်းလင်းချက်။ ။ ဤဥပမာကို လေ့လာသုံးသပ်ကြည့်ပါက အခြေအနေ နှစ်ရပ်ကို တွေ့ရမည်။ مقدم နှင့် تالى ၏ တပြိုင်တည်းမှန်သောအခြေ အနေနှင့် တပြိုင်တည်းမှားသော အခြေအနေဟူ၍ အခြေအနေနှစ်မျိုး တွေ့ရမည်။ အခြေအနေနှစ်ရပ်စလုံးတွင် ပယ်ခြင်းသဘောကို မဆောင်ပါ။ (ဆန့်ကျင်ဘက်မဖြစ်ပါ။)

الإنسان နှင့် الحيوان အကြား၌ ပယ်ခြင်းသဘောဆောင်သော အခြေအနေဟူ၍ အလျဉ်းမရှိပါ။ အခြေအနေတိုင်းတွင် ဆန့်ကျင်ဘက်များ မဟုတ်ကြပါ။ ထို့ကြောင့် နှစ်ခုလုံး တပြိုင်တည်းလည်း မှန်နိုင်သလို၊ နှစ်ခုလုံး တပြိုင်တည်းမှားသည့်ပုံစံလည်း ရှိနိုင်ပါသည်။

(၁) الحيوان الناطق (အဆိုနှစ်ခုလုံး တစ်ပြိုင်တည်းမှန်သည့်ဥပမာ) ပထမအခြေအနေ။ ။ တပြိုင်တည်းမှန်ခြင်းကို လေ့လာသုံးသပ်ကြည့်ပါ။

الإنسان လည်းဖြစ်၊ الحيوان လည်းဖြစ်သော အရာရှိပါသည်။ ထိုအရာမှာ الحيوان الناطق ဖြစ်ပါသည်။ ထို့ကြောင့် ဤဥပမာတွင် ပါဝင်သော ပထမအဆိုနှင့် ဒုတိယအဆိုသည် တပြိုင်တည်းမှန်ခြင်းတွင် ပယ်ခြင်းသဘောမဆောင်ပါ။

(၂) الحجر (အဆိုနှစ်ခုလုံးတစ်ပြိုင်တည်းမှားသည့်ဥပမာ)

ဒုတိယအခြေအနေ။ ။ နှစ်ခုလုံးတပြိုင်တည်းမှားခြင်းကို လေ့လာသုံးသပ်ကြည့်ပါ။

الإنسان လည်းမဟုတ်၊ الحيوان လည်းမဟုတ်သောအရာ ရှိပါသည်။ ထိုအရာမှာ الحجر ဖြစ်ပါသည်။ ထို့ကြောင့် ဤဥပမာ၌ ပါဝင်သော ပထမအဆိုနှင့် ဒုတိယအဆိုသည် တပြိုင်တည်းမှားခြင်းတွင် ပယ်ခြင်းသဘောမဆောင်ပါ။

(၂) المنفصلة مانعة الجمع ➤ القضية الشرطية ၏ مقدم နှင့် تالى အကြားရှိ ပယ်ခြင်းသဘောဆောင်သည့်ရွေးခွင့်သည် တပြိုင်တည်း မှန်ခြင်း နှင့်သာ သက်ဆိုင်မည်။

(နှစ်ခုလုံး တပြိုင်တည်း မှားသည့် အခြေနေတွင် ဆန့်ကျင်ဘက် မဖြစ်ပါ။)

ဥပမာ➤ هذا الشئ إما ذهب أوفضة

ရှင်းလင်းချက်။ ။ ဤဥပမာကို လေ့လာသုံးသပ်ကြည့်ပါက အခြေအနေ နှစ်ရပ်တွေ့ရမည်။ مقدم နှင့် تالى ၏ တပြိုင်တည်းမှန်သော အခြေအနေနှင့် တပြိုင်တည်းမှားသော အခြေအနေဟူ၍ အခြေအနေနှစ်မျိုး တွေ့ရမည်။ ပထမအခြေအနေတွင် ပယ်ခြင်းသဘောကိုဆောင်မည်။ ဒုတိယအခြေအနေတွင် ပယ်ခြင်းသဘောကို မဆောင်ပါ။

ပထမအခြေအနေ။ ။ အတူတပြိုင်တည်းမှန်ခြင်းကို လေ့လာသုံးသပ်ကြည့်ပါ။ အရာတစ်ခုအား ရွှေဖြစ်သည် ထို့အတူ ငွေလည်းဖြစ်သည်ဟု သတ်မှတ်ပြောဆို၍ ရနိုင်သောအရာဟူသည် လုံးဝမရှိပါ။ ထို့ကြောင့် ဤဥပမာတွင် ပါဝင်သော ပထမအဆို နှင့် ဒုတိယအဆိုသည် တပြိုင်တည်းမှန်ခြင်းတွင် ပယ်ခြင်းသဘောဆောင်ပါသည်။

ဒုတိယအခြေအနေ။ ။ နှစ်ခုလုံးတပြိုင်တည်းမှားခြင်းကို လေ့လာသုံးသပ်ကြည့်ပါ။ ရွှေလည်းမဟုတ် ငွေလည်းမဟုတ်သော အရာများစွာ ရှိနိုင်

ပါသည်။ ဥပမာအနေဖြင့် ကြေးနီ၊ သတ္တုတို့သည် ရွှေငွေ မဟုတ်ကြပါ။ ထို့ကြောင့် ဤဥပမာ၌ပါဝင်သော ပထမအဆိုနှင့် ဒုတိယအဆိုသည် တပြိုင်တည်းမှားခြင်းတွင် ပယ်ခြင်းသဘော မဆောင်ပါ။

(၃) **المنفصلة ما نعة الخلو** ➢ القضية الشرطية ၏ ပထမအဆိုနှင့် ဒုတိယအဆိုအကြားရှိ ပယ်ခြင်းသဘောဆောင်သည့် ရွေးခွင့်သည် တပြိုင် တည်း မှားခြင်းနှင့်သာ သက်ဆိုင်မည်။

(နှစ်ခုနှင့် တပြိုင်တည်းမှန်သည့်အခြေနေတွင် ပယ်ခြင်းသဘောကို မဆောင်ပါ။)

ဥပမာ➢ (بالقوة) إما أن يكون الإنسان كاتبا أو ضاحكا

ရှင်းလင်းချက်။ ။ ဤဥပမာကို လေ့လာသုံးသပ်ကြည့်ပါက အခြေအနေ နှစ်ရပ်တွေ့ရမည်။ ပထမအဆို နှင့် ဒုတိယအဆို ၏ တပြိုင်တည်းမှန်သော အခြေအနေနှင့် တပြိုင်တည်းမှားသော အခြေအနေဟူ၍ အခြေအနေ နှစ်မျိုးတွေ့ရမည်။ ပထမအခြေအနေတွင် ပယ်ခြင်းသဘောကိုမဆောင်ပါ။ ဒုတိယအခြေအနေတွင် ပယ်ခြင်းသဘောကို ဆောင်မည်ဖြစ်သည်။

ပထမအခြေအနေ။ ။ အတူတပြိုင်တည်းမှန်ခြင်းကို လေ့လာသုံးသပ် ကြည့်ပါ။ လူသည် မိမိဗီဇအရတပြိုင်တည်း ရေးသားသူဖြစ်နိုင်သလို၊ ရယ်မောနိုင်စွမ်းရှိသူလည်း ဖြစ်နိုင်ပါသည်။ ထို့ကြောင့် ဤဥပမာတွင် ပါဝင်သော ပထမအဆို နှင့် ဒုတိယအဆိုသည် တပြိုင်တည်းမှန်ခြင်းတွင် ပယ်ခြင်းသဘောကို မဆောင်ပါ။

ဒုတိယအခြေအနေ။ ။ နှစ်ခုလုံးတပြိုင်တည်းမှားခြင်းကို လေ့လာသုံးသပ် ကြည့်ပါ။ လူသည် ရယ်နိုင်စွမ်းရှိသူလည်းမဟုတ်၊ ရေးသားသူလည်း မဟုတ်ပါဟု ပြောဆိုလျှင် ထိုစကားသည်မမှန်နိုင်ပါ။ အမှန်မှာ လူဖြစ်လျှင်

ရေးသားသူမဖြစ်လျှင်လည်း ရယ်မောနိုင်စွမ်းရှိသူဖြစ်ရမည်။ နှစ်ခုလုံးကို တပြိုင်တည်း ပယ်၍ မရနိုင်ပါ။ ထို့ကြောင့် ဤဥပမာ၌ပါဝင်သော ပထမအဆိုနှင့်ဒုတိယအဆိုသည် တပြိုင်တည်းမှားခြင်းတွင်သာ ပယ်ခြင်း သဘောကို ဆောင်လိမ့်မည်ဖြစ်သည်။

## လေ့ကျင့်ခန်း(၁၆)

(၁) القضية الشرطية ၏ အဓိပ္ပာယ်ဖွင့်ဆိုပါ။ ထို့နောက် القضية الشرطية ၏ အမျိုးအစားများအား ရေးသားပါ။

(၂) المتصلة နှင့် المنفصلة ၏ အဓိပ္ပာယ်ဖွင့်ဆိုပါ။

(၃) المتصلة ၏ အမျိုးအစားဖြစ်သည့် اللزومية နှင့် الاتفاقية ၏ အဓိပ္ပာယ်ဖွင့်ဆိုပါ။

(၄) المنفصلة (၃) မျိုး၏ ဥပမာများအား ရေးသားပြီး၊ ထိုဥပမာများအား ရှင်းလင်းပြပါ။

# التناقض

**التناقض** ၏ ဘာသာစကားဆိုင်ရာအဓိပ္ပာယ်မှာ التخالف بين الأمرين (ခ) အရာနှစ်ခုသည် အချင်းချင်း အပြန်အလှန် ဆန့်ကျင်ဘက်ဖြစ်ခြင်း ဟူ၍ ဖြစ်သည်။

اصطلاحا - ပညာရပ်ဆိုင်ရာဝေါဟာရအရ التناقض ပုံစံမှာ -

قضية နှစ်ခုသည် الإيـجـاب နှင့် الســلــب (တနည်း အဟုတ်နှင့် မဟုတ်ဝါကျဖြစ်ခြင်း)တွင် တစ်ခုနှင့် တစ်ခု မတူညီနိုင်ကြပါ။ (ဆိုလိုသည်မှာ တစ်ခုသည် အဟုတ်ဝါကျဖြစ်ပါက ကျန်တစ်ခုသည် အဟုတ်ဝါကျ မဖြစ်နိုင်ဘဲ မဟုတ်ဝါကျသာ ဖြစ်နိုင်သည်။) ထိုသို့ မတူညီခြင်းကြောင့် ဆန့်ကျင်ဘက်ဖြစ်နေသော အဆိုနှစ်ခုအနက်မှ တစ်ခု၏ ဖြစ်မြောက်ခြင်းသည် ကျန်တစ်ခုအား မဖြစ်စေပါ။

ဥပမာ➤ زيد إنسان နှင့် زيد ليس بإنسان

အချင်းချင်း تـنـاقض ဖြစ်နေသော အဆိုနှစ်ခုသည် قـضية شخصية ဖြစ်ပါက အချက်(၈)ချက်တွင် တူညီမှုသာ ၎င်းတို့အကြား၌ تـنـاقـض ဖြစ်သည်ဟု သတ်မှတ်နိုင်မည်ဖြစ်သည်။

အကယ်၍ ထို قضية နှစ်ခုသည် قضية محصورة ဖြစ်ပါက အချက်(၈)ချက်အပြင် كلى ، جزئى ဖြစ်ခြင်း၌လည်း တူညီရမည်။

( القضية الشخصية နှင့် الـقضية المحصورة အကြောင်းကို ဖော်ပြခဲ့ပြီးဖြစ်သည်။ တစ်ကြိမ်ထပ်မံဖော်ပြရသော်- الــقــضية الشــخــصية (ခ) ပုဂ္ဂိုလ်ရေးပြအဆိုဟူသည် ၎င်းအဆိုတွင်ပါဝင်သောကတ္တားပုဒ်သည် သတ်မှတ်ခံသီးသန့်ပုဂ္ဂိုလ်ဖြစ်သော အဆိုမျိုးဖြစ်ပါသည်။

الـقضية المحصورة (ခ) ကန့်သတ်ချက်ပြအဆိုဟူသည် ကတ္တားပုဒ်နှင့်သက်ဆိုင်သောသူတို့ကိုသာ ရည်ညွှန်းပြီး၊ ကတ္တားပုဒ်၏ အရေအတွက်ကိုပါ ပူးတွဲဖော်ပြထားသော အဆိုမျိုးဖြစ်ပါသည်။ )

အဆိုနှစ်ခုသည် အချင်းချင်း تناقض ဖြစ်နေသည်ဟု သတ်မှတ်ရန် ထိုအဆိုနှစ်ခုတွင် တူညီရမည့် အချက် (၈) ချက်မှာ အောက်ပါအတိုင်း ဖြစ်သည်။

(၁) **موضوع** (ကတ္တားပုဒ်) တူရမည်။ သို့မဟုတ်ပါက အဆိုနှစ်ခု အကြားတွင် تناقض မရှိနိုင်ပါ။ ဥပမာအနေဖြင့် زيد قائم နှင့် عمرو ليس بقائم ၏ အကြားတွင် تناقض မရှိနိုင်ပါ။

(၂) **محمول** (ဝါစက်ပုဒ်) တူရမည်။ သို့မဟုတ်ပါက အဆိုနှစ်ခု အကြားတွင် تناقض မရှိနိုင်ပါ။ ဥပမာအနေဖြင့် زيد قائم နှင့် زيد ليس بكاتب ၏ အကြားတွင် تناقض မရှိနိုင်ပါ။

(၃) **مكان** (ခ) နေရာ တူရမည်။ သို့မဟုတ်ပါက အဆိုနှစ်ခု အကြားတွင် تناقض မရှိနိုင်ပါ။ ဥပမာအနေဖြင့် زيد قاعد فى المسجد နှင့် زيد ليس بقاعد فى الدار ၏ အကြားတွင် تناقض မရှိနိုင်ပါ။

(၄) **زمان** (ခ) အချိန်ကာလ တူရမည်။ သို့မဟုတ်ပါက အဆိုနှစ်ခု အကြားတွင် تناقض မရှိနိုင်ပါ။ ဥပမာအနေဖြင့် زيد نائم فى الليل နှင့် زيد ليس بنائم فى النهار ၏ အကြားတွင် تناقض မရှိနိုင်ပါ။

(၅) **شرط** တူရမည်။ သို့မဟုတ်ပါက အဆိုနှစ်ခုအကြားတွင် تناقض မရှိနိုင်ပါ။ ဥပမာအနေဖြင့်

--- إن كان الطالب فى الفصل فالخادم فى المكتب နှင့် إن كان المعلم فى الفصل فالخادم فى المكتب အကြားတွင် تناقض မရှိနိုင်ပါ။

(၆) **جزء** နှင့် **كل** တူရမည်။ သို့မဟုတ်ပါက အဆိုနှစ်ခုအကြားတွင် تناقض မရှိနိုင်ပါ။ ဥပမာအနေဖြင့် الزنجى أسود أي بعضه နှင့်

الزنجى أسود أي كله ၏ အကြားတွင် تناقض မရှိနိုင်ပါ။

(၇) **إضـــــافة** (ပိုင်ဆိုင်မှု/ပတ်သက်မှု) တူရမည်။ သို့မဟုတ်ပါက အဆိုနှစ်ခုအကြားတွင် تناقض မရှိနိုင်ပါ။ ဥပမာအနေဖြင့် زيد أب لعمرو နှင့် زيد ليس بأب لبكرو ၏ အကြားတွင် تناقض မရှိနိုင်ပါ။

(၈) **بالقوة** ၊ **بالفعل** တူရမည်။ သို့မဟုတ်ပါက အဆိုနှစ်ခုအကြားတွင် تناقض မရှိနိုင်ပါ။ ဥပမာအနေဖြင့် الخمر فى الدن مسكر بالقوة နှင့် الخمر فى الدن مسكر بالفعل ၏ အကြားတွင် تناقض မရှိနိုင်ပါ။

## လေ့ကျင့်ခန်း(၁၇)

(၁) تناقض ၏ لغوى နှင့် اصطلاحى ဖွင့်ဆိုချက်အားရေးသားပါ။

(၂) تناقض ဖြစ်မြောက်ရန် မည်သည့်စည်းကမ်းချက်များလိုအပ်ပါသနည်း။

(၃) ထိုစည်းကမ်းချက်များအား ပမာနှင့် တကွရှင်းလင်းတင်ပြပါ။

(၄) قـضية مـحـصورة နှစ်ခုအကြား၌ تـنـاقض ဖြစ်ရန် စည်းကမ်းချက် မည်မျှရှိပါသနည်း။

## العكس المستوى (ရိုးရိုးပြန်လှန်ခြင်း)

العكس ၏ အရဗီအဓိပ္ပာယ်မှာ ပြောင်းပြန်ပြုလုပ်ခြင်း ဖြစ်သည်။ (အလိုသဘောမှာ အတွင်း၌ရှိသောအရာအား အပြင်ဘက်သို့၊ အပြင်ဘက်၌ ရှိသောအရာအား အတွင်းဘက်သို့ ထားခြင်းဖြစ်သည်။)

ယုတ္တိဗေဒပညာရပ်၌ العكس ဆိုသည်မှာ- အဆိုတစ်ခု၏ အဟုတ်ဝါကျဖြစ်ခြင်း၊ မဟုတ်ဝါကျဖြစ်ခြင်းကို အပြောင်းအလဲမဖြစ်စေဘဲ ၎င်းတို့တွင်ပါဝင်သော ကတ္တားပုဒ် နှင့် ဝါစက်ပုဒ်တို့၏ အထားအသိုကို ပြောင်းပြန်လှန်ပြီးနောက် ရရှိလာသော အဆိုကို ပထမအဆို၏ عكس ဟု ခေါ်နိုင်ပါသည်။

အဆိုတစ်ခုကို عكس ပြုပြီးနောက် ထိုအဆိုသည် အဟုတ်ဝါကျမှ မဟုတ်ဝါကျ အဖြစ်သို့ ပြောင်းမသွားရပါ။ ဤနည်းအတိုင်း မဟုတ်ဝါကျမှလည်း အဟုတ်ဝါကျအဖြစ်သို့ ပြောင်းမသွားရပါ။

## محصورة (ကန့်သတ်ချက်ပြအဆို) လေးမျိုး၏ عكس ဖြစ်ပုံများမှာ

ကန့်သတ်ချက်ပြအဆို လေးမျိုး၏ عكس ဖြစ်ပုံများကို မဖော်ပြမီ ကန့်သတ်ချက်ပြအဆိုနှင့် ပတ်သက်၍ ဖော်ပြခဲ့ပြီးသော အကြောင်းအရာအချို့ကို ထပ်မံဖော်ပြလိုက်ပါသည်။

القضية المحصورة (ကန့်သတ်ချက်ပြအဆို) ဟူသည် ၎င်းတို့အနက်တစ်ခုတိုင်းတွင် حرف السور (ကန့်သတ်ချက်ပြဝိဘတ်) များပါရှိရပါသည်။

(၁) الموجبة الكلية (အဟုတ်ယေဘုယျအဆို)အတွက် ဝိဘတ်မှာ كلّ

ဥပမာ ➢ كل إنسان حيوان

(၂) الموجبة الجزئية (အဟုတ်ကေဝိဒအဆို)အတွက်ဝိဘတ်မှာ بعض/واحد

ဥပမာ ➢ بعض الحيوان إنسان

(၃) السالبة الكلية (မဟုတ်ယေဘုယျအဆို)အတွက်ဝိဘတ်မှာ لا شيء

ဥပမာ➢ لا شئ من الإنسان بحجر

(၄) السالبة الجزئية (မဟုတ်ကေဝိဒအဆို)အတွက်ဝိဘတ်မှာ ---

ليس كل / ليس بعض /لاواحد

ဥပမာ ➢ بعض الحيوان ليس بإنسان

ယခုဆက်လက်၍ ဤလေးမျိုး၏ عـــكـــــس ဖြစ်ပုံများကို ဖေါ်ပြသွားမည်။

(၁) **موجبة كلية** ၏ عكس သည် موجبة جزئية ဖြစ်မည်။

ဥပမာ ➢ كـل إنســان حيوان ၏ عــكــس သည် بعض الحيوان إنسان ဖြစ်သည်။

(၂) **سالبة كلية** ၏ عكس သည် سالبة كلية သာဖြစ်မည်။

ဥပမာ ➢ لاشـئ من الحجر بإنسان ၏ عكس သည် لا شئ من الإنسان بحجر ဖြစ်သည်။

(၃) **سالبة جزئية** ၏ عكس သည် سالبة جزئية သာဖြစ်မည်။

ဥပမာ ➢ بعض الأبيض ليس بحيوان ၏ عكس သည် بعض الحيوان ليس بأبيض ဖြစ်မည်။

(၄) **موجبة جزئية** ၏ عكس သည် တခါတရံ موجبة جزئية လာရှိသည်။

ဥပမာ ➢ بـعض الحيوان أبيض ၏ عكس သည် بعض الأبيض حيوان ဖြစ်သည်။

တစ်ခါတရံ **موجبة جزئية** ၏ عكس မလာပါ။

ဥပမာ ➢ إنسان بعض الحيوان ၏ عكس မလာပါ။ ထို့ကြောင့် حيوان بعض الإنسان ဟူ၍ عكس သတ်မှတ်လို့ မရနိုင်ပါ။

## လေ့ကျင့်ခန်း(၁၈)

(၁) عكس المستوى အား تعريف လုပ်ပါ။

(၂) محصورات أربعة ၏ عكس المستوى များအား ပမာများနှင့်တကွ တင်ပြပါ။

(၃) အောက်ပါ قضية များ၏ عكس المستوى အား ဖေါ်ပြပါ။

(၁) كل إنسان جسم (၂) ليس من الحمار بلا حى

(၃) كل حريص ذليل (၄) كل مجرم مستحق العقوبة

(၅) كل صابر محبوب عند الله

# عكس النقيض

تناقض ပြုလုပ်နည်းမှာ- عكس ပြုလုပ်ပုံ နှင့် عكس النقيض ပြုလုပ်ပုံကို ပေါင်းစပ်ရမည်ဖြစ်သည်။ ဆိုလိုသည်မှာ ကတ္တားပုဒ်၏ ဆန့်ကျင်ဘက်ကို ဝိစက်ပုဒ်၏နေရာတွင်၊ ဝိစက်ပုဒ်၏ဆန့်ကျင်ဘက်ကို ကတ္တားပုဒ်၏နေရာတွင် ထားရမည်။ အဟုတ်ဝါကျနှင့် မဟုတ်ဖြစ်ခြင်းသည် မူရင်းအခြေအနေမှ ပြောင်းလဲမှု မဖြစ်စေရ။

ဥပမာ ➢ كل إنسان حيوان ၏ عكس النقيض သည် كل لا حيوان لا إنسان ဖြစ်လိမ့်မည်။

(လူသားတိုင်းသည် သတ္တဝါဖြစ်သည်ဟူသော အဆို၏ عكس النقيض မှာ သတ္တဝါမဟုတ်သော အရာတိုင်းသည် လူမဟုတ်သောအရာ ဖြစ်ပါသည်။)

(၁) الموجبة الكلية ၏ **عكس النقيض** သည် الموجبة الكلية သာဖြစ်မည်။

ဥပမာ ➤ كل إنسان حيوان ၏ عكس النقيض သည် كل لا حيوان لا إنسان ဖြစ်သည်။

(၂) الموجبة الجزئية ၏ **عكس النقيض** မရှိပါ။

ဥပမာ ➤ بعض الحيوان لا إنسان ၏ عكس النقيض သည် بعض الإنسان لا حيوان ဖြစ်နေသောကြောင့် မမှန်ကန်နိုင်ပါ။

(၃) السالبة الكلية ၏ **عكس النقيض** သည် السالبة الجزئية ဖြစ်သည်။

ဥပမာ ➤ لاشئ من الإنسان بفرس ၏ عكس النقيض သည် بعض اللافرس ليس بلا إنسان

ရှင်းလင်းချက်။ ။ လူသားတို့အနက် မြင်းတစ်ကောင်မျှ မရှိပါ။ ထိုအဆို၏ عكس النقيض သည် အချို့သော မြင်းမဟုတ်သော တရိစ္ဆာန်သည် لاإنسان မဟုတ်ပါ။ إنسانသာဖြစ်သည်။

(၄) السالبة الجزئية ၏ **عكس النقيض** သည် سالبة جزئية သာ လာလိမ့်မည်။

ဥပမာ ➤ بعض الحيوان ليس بإنسان ၏ عكس النقيض သည် بعض اللإنسان ليس بلاحيوان

ရှင်းလင်းချက်။ ။ အချို့သော إنسان မဟုတ်သောအရာများသည် لاحيوان မဖြစ်ဘဲ حيوان သာ ဖြစ်လိမ့်မည်။ ပမာအနေဖြင့် မြင်းကို စဉ်းစားနိုင်ပါသည်။

## လေ့ကျင့်ခန်း(၁၉)

(၁) عكس النقيض သည်ဆိုသည်မှာ မည်သည့်ပုံစံကို ခေါ်ပါသနည်း။

(၂) المحصورات الأربعة ၏ عكس النقيض အား ပမာများနှင့်တကွ ရှင်းလင်းတင်ပြပါ။

(၃) အောက်ပါ قضية များ၏ عكس النقيض အား တင်ပြပါ။

(၁) كل حيوان جسم

(၂) كل مسلم يعتقد أن الله هو المعبود

(၃) بعض المسلمين لا يصلون

(၄) لاواحد من الكافر يدخل الجنة

## التناقض နှင့် عكس ဖေါ်ပြခြင်း၏ အကျိုးရလဒ်

الاستدلال ၏အမျိုးအစားများကိုသိမှသာ التناقض နှင့် عكس တို့၏ အကျိုးရလဒ်များကို သိနိုင်မည် ဖြစ်သည်။

## الاستدلال ၏ အမျိုးအစားများ

الاستدلال ဆိုသည်မှာ အရာတစ်ခုနှင့် ပတ်သက်ပြီး မိမိ၏ရပ်တည်ချက်သည် မှန်ကန်ကြောင်းညွှန်ပြသော အထောက်အထားကို ဖေါ်ပြခြင်းသည်။

**الاستدلال** သည်နှစ်မျိုးရှိပါသည်။

(၁) الاستدلال المباشر (တိုက်ရိုက်ညွှန်ပြသော အထောက်အထားကို အသုံးပြုခြင်း)

(၂) الاستدلال غير المباشر (တဆင့်ခံ ညွှန်ပြသော အထောက်အထားကို အသုံးပြုခြင်း)

(၁) الاستدلال المباشر ဆိုသည်မှာ မိမိ၏ရပ်တည်ချက် (သို့) အတည်ပြုစေလိုသောကိစ္စသည် မှန်ကန်ကြောင်း တိုက်ရိုက်ညွှန်ပြနေသော အထောက်အထားကို ဖေါ်ပြသည့်ပုံစံ ဖြစ်သည်။

ဥပမာ➤ အရာဝတ္ထုများ၏ ဆန်းသစ်မှုနှင့်ပြောင်းလဲမှုများဖြင့် ကမ္ဘာကြီး၏ မတည်မြဲမှုကို အထောက်အထားပေးခြင်း။

الاستدلال المباشر ၏ နည်း (၃) မျိုးရှိပါသည်။

(၁) القياس

(၂) الاستقراء

(၃) التمثيل

(၎င်းသုံးမျိုးအား ရှေ့လာမည့်သင်ခန်းစာများတွင် အကျယ်တဝင့် ဖေါ်ပြမည်။)

(၂) الاستدلال غير المباشر ဆိုသည်မှာ (မိမိဘက်မှ အတည်ပြုစေလိုသောကိစ္စသည် မှန်ကန်ကြောင်း တိုက်ရိုက်ညွှန်ပြနေသော အထောက်အထားအား မတင်ပြဘဲ) ထိုကိစ္စနှင့် ဆက်နွယ်နေသော အခြားကိစ္စမှတဆင့် အထောက်အထားကို တဆင့်ခံဖေါ်ပြသည့်ပုံစံ ဖြစ်သည်။

ဥပမာ➤ မှန်ကန်ကြောင်း အတည်ပြုစေလိုသောအရာ၏ نقيض (ခေါ်) ဆန့်ကျင်ဘက်အရာမှ တဆင့် အထောက်အထား တင်ပြခြင်း။

ပမာအားဖြင့် كل إنسان حيوان ဟူသောစကားမှန်ကန်ကြောင်းကို ထိုစကား၏ نقيض ဖြစ်သော بعض الإنسان ليس بحيوان ၏ မမှန်ကန်ခြင်းဖြင့် အထောက်အထားပြခြင်း။

**الاستدلال غير المباشر** ၏ နည်း (၃) မျိုးရှိပါသည်။

(၁) **التناقض**

(၂) **عكس المستوى**

(၃) **عكس النقيض**

الاستدلال المباشر များအားသိရှိရန် အရေးကြီး လိုအပ်သလို الاستدلال غير المباشر များကိုလည်း သိထားရန် လိုအပ်ပါသည်။

## လေ့ကျင့်ခန်း(၂၀)

(၁) الاستدلال ၏ تعريف နှင့် الاستدلال ၏ အမျိုးအစားများအား တင်ပြပါ။

(၂) الاستدلال غير المباشر ဆိုသည်မှာ အဘယ်အရာဖြစ်ပါသနည်း။

(၃) الاستدلال المباشر သည် အမျိုးအစားမည်မျှရှိပါသနည်း။

(၄) الاستدلال غير المباشر ၏ ဥပမာများအား တင်ပြပါ။

(၅) منطق ၌ التناقض နှင့် عكس တင်ပြခြင်းတွင် မည်သည့်အကျိုးကျေးဇူးများ ရှိပါသနည်း။

## الحجة (အထောက်အထား)

الـحجة ၏ ဘာသာစကားဆိုင်ရာအဓိပ္ပာယ်မှာ الـغلبة လွှမ်းမိုးခြင်း ဖြစ်သည်။ ဥပမာ (فَحَجَّ آدم موسٰى)

အဓိပ္ပါယ်- အထောက်အထားအရ (عـليــه السلام) آدم သခင်သည် مـوسٰى (عليه السلام) သခင်အပေါ် လွှမ်းမိုးခဲ့သည်။

الـحـجة ၏ ပညာရပ်ဆိုင်ရာဝေါဟာရ အဓိပ္ပာယ်မှာ الـدليـل الـدال على المطلوب အထောက်အထားဖြစ်ပါသည်။

ဥပမာ - (وتلك حجتنا آتيناها إبراهيم)

**( အဓိပ္ပါယ်နှစ်ခုအကြားအပ်စပ်မှု)**

အထောက်အထားရှိသောသူသည် ပြိုင်ဘက်အပေါ်လွှမ်းမိုးနိုင်သောကြောင့် အထောက်အထားကို حجّة ဟုခေါ်ရပါသည်။

## الحجة ၏ အမျိုးအစားများ

**الحجة** သုံးမျိုးရှိပါသည်။

(၁) **القياس**

(၂) **الاستقراء**

(၃) **التمثيل**

# القياس ( ကြိယာ့တွဲဆင်ခြေ)

(၁) الـقيـاس ၏ ဘာသာစကားဆိုင်ရာ အဓိပ္ပာယ်မှာ ချိန်ဆခြင်းဖြစ်သည်။ منطق ပညာများထံ၌ القياس ဆိုသည်မှာ အဆိုများဖြင့် စုစည်းထား သော စကားရပ်တစ်ခုဖြစ်သည်။ ၎င်းစကားရပ်ကို လက်ခံလိုက်ခြင်းဖြင့် အခြားသောစကားရပ်တစ်ခုကိုလည်း မဖြစ်မနေ လက်ခံရတော့မည် ဖြစ်သည်။

သို့မဟုတ် الـقيـاس ဆိုသည်မှာ جـزئـى ကေဝိဒအဆိုတစ်ခုကို အတည်ပြုစေရန် كـلـى ယေဘုယျအဆိုအား အထောက်ထားအဖြစ် ပြသ ခြင်းဖြစ်သည်။

ဥပမာ ➢ الـعـالـم جسـم و كـل جسـم حـادث والـعالم حادث ကမ္ဘာကြီးသည် ထုထည်ရှိသော အရာဖြစ်သည်။ ထုထည်ရှိသော အရာတိုင်း သည် သင်္ခါရ (ခေါ်) မတည်မြဲသောအရာဖြစ်သည်။ ထို့ကြောင့် ကမ္ဘာကြီး သည်လည်း မတည်မြဲပါ။

ရှင်းလင်းချက်(၁) ။ (ဤဥပမာ၌ (الـعـالـم جسـم و كـل جسم حـادث) အဆိုနှစ်ခုဖြင့် ပေါင်းစပ်ထားသော ပထမစကားရပ်ကို လက်ခံလိုက်ခြင်းဖြင့် ဒုတိယစကားရပ်ဖြစ်သော ကမ္ဘာကြီး၏ မတည်မြဲမှုကို လက်ခံရလေတော့ သည်။)

ရှင်းလင်းချက်(၂)။ كـل جسـم حـادث သည် ယေဘုယျအဆိုဖြစ်သည်။ ထိုအဆိုကို လက်ခံပြီးနောက် العالم حادث ဟူသော ကေဝိဒအဆိုကိုလည်း မဖြစ်မနေ လက်ခံရတော့မည်ဖြစ်သည်။

# القياس ၏ အမျိုးအစားများ

(၁) القياس الاقتراني

(၂) القياس الاستثنائي

## القياس الاقتراني

နိဂုံးမထုတ်မီ နိဒါန်းများတွင် နိဂုံး၏ပုံစံတူ (သို့မဟုတ်) နိဂုံး၏ ဆန့်ကျင်ဘက်ပုံစံကို ကြိုတင်မဖော်ပြထားသော قياس မျိုးကို اقتراني ဟု ခေါ်ပါသည်။ ထို قياس မျိုးတွင် حرف الاستثناء (ခြွင်းချက်ပြဝိဘတ်) မပါပါ။

ဥပမာ ➢ النبيذ مسكر، وكل مسكر حرام ، النبيذ حرام

မေးခွန်း။ ဤ قياس အားအဘယ်ကြောင့် اقتراني ဟုခေါ်ရပါသနည်း။
အဖြေ။ ဤ قياس ၌ နိဒါန်းငယ်နှင့် နိဒါန်းကြီး စသော နိဒါန်းနှစ်ခုကို حرف الاستثناء (ခေါ်) ခြွင်းချက်ပြဝိဘတ်မပါဘဲ ပေါင်းစည်းထားသောကြောင့် ဤ قياس ကို اقتراني ဟုခေါ်ရပါသည်။

## القياس الاستثنائي

နိဂုံးမထုတ်မီ နိဒါန်းများတွင် နိဂုံး၏ပုံစံတူ (သို့မဟုတ်) နိဂုံး၏ ဆန့်ကျင်ဘက်ပုံစံကို ကြိုတင်ဖော်ပြထားသော قياس မျိုးကို استثنائي ဟု ခေါ်ပါသည်။ ထို قياس တွင် حرف الاستثناء (ခြွင်းချက်ပြဝိဘတ်) ပါရမည်ဖြစ်သည်။

မေးခွန်း။ ဤ قياس အားအဘယ်ကြောင့် استثنائي ဟုခေါ်ရပါသနည်း။
အဖြေ။ حــرف الاستثــنــاء (ခေါ်) ခြွင်းချက်ပြဝိဘတ်ပါသောကြောင့် ဤ قياس ကို استثنائي ဟုခေါ်ရပါသည်။

ဥပမာများ

| နိဂုံး | နိဒါန်းကြီး | နိဒါန်းငယ် | |
|---|---|---|---|
| فهو حرام | لكنه مسكر | إن كان النبيذ مسكرا فهو حرام | အဟုတ်ဝါကျ |
| فهو ليس بمباح | لكنه مسكر | إن كان النبيذ مباحا فهو ليس بمسكر | မဟုတ်ဝါကျ |

(ရှင်းလင်းချက်)

အထက်ဖော်ပြပါ ဥပမာနှစ်ခုတွင် နိဒါန်းငယ်၊ နိဒါန်းကြီး၊ နိဂုံးဟူ၍ အဆိုသုံးခုဖြင့် ဖွဲ့စည်းထားပါသည်။ အဟုတ်ဝါကျနှင့် မဟုတ်ဝါကျပါသော ဥပမာနှစ်ခုလုံးကို လေ့လာကြည့်ခြင်းအားဖြင့် - ခြွင်းချက်ပြဝိဘတ် နောက်တွင်လာသော နိဒါန်းကြီးသည် အဓိကကျပါသည်။ နိဂုံးထုတ်ရာတွင် နိဒါန်းကြီးအခြေအနေကို ကြည့်၍သာ ထုတ်ရပါသည်။ ထိုနိဒါန်းကြီးတွင် နိဒါန်းငယ်၏ ရှေ့အဆိုပိုင်း သို့မဟုတ် နောက်အဆိုပိုင်း၏ပုံစံတူ သို့မဟုတ် ဆန့်ကျင်ဘက်ပုံစံကို ခြွင်းချက်အဖြစ် သတ်မှတ်ဖော်ပြထားသည်ကို လေ့လာ သုံးသပ်ကြပါစို့။

(၁) موجبة ၏ ဥပမာ ➤ إن كان النبيذ مسكرا فهو حرام لكنه مسكر فهو حرام

ဤဥပမာတွင် နိဒါန်းငယ်၏ ရှေ့အဆိုပိုင်းကို ခြွင်းချက်အဖြစ် သတ်မှတ်လိုက်သောကြောင့် နိဂုံးသည် နိဒါန်းငယ်၏ နောက်အဆို ပိုင်းနှင့် တူဆင်သည့်ပုံစံ ရရှိလာပါသည်။

(၂) سالبة ၏ ဥပမာ➤ إن كان النبيذ مباحا فهو ليس بمسكر لكنه مسكر فهو ليس بمباح

ဤဥပမာတွင် နိဒါန်းငယ်၏ နောက်အဆိုပိုင်း၏ ဆန့်ကျင်ဘက်ပုံစံကို ခြွင်းချက်အဖြစ် သတ်မှတ်လိုက်သောကြောင့် နိဂုံးသည် ရှေ့အဆိုပိုင်း၏ ဆန့်ကျင်ဘက်ပုံစံ ရရှိလာပါသည်။

**القياس الاقتراني** နှစ်မျိုးရှိပါသည်။

(၁) **حمليّ**

(၂) **شرطيّ**

(၁) حمليّ သည် القضايا الحملية (သာမန်အဆို) များဖြင့် ဖွဲ့စည်းထားပါသည်။

(၂) شرطيّ သည် القضايا الشرطية (ပေါင်းစပ်အဆို)များဖြင့် ဖွဲ့စည်းထားပါသည်။

## القياس الاقترانى الحملى ၌ပါဝင်သော အစိတ်အပိုင်းများ

القياس الاقترانى الحملى ကို ပုဒ်သုံးမျိုးဖြင့် ဖွဲ့စည်းထားပါသည်။

(၁) ပုဒ်ငယ် (الحد الأصغر) ပုဒ်ငယ်ဟူသည် နိဂုံး၏ ကတ္တားပုဒ်နှင့် တူဆင်သည့် ပုဒ်ဖြစ်သည်။

(၂) ပုဒ်ကြီး (الحد الأكبر) ပုဒ်ကြီးဟူသည် နိဂုံး၏ ဝါစင်္ကပုဒ်နှင့် တူဆင်သည့်ပုဒ် ဖြစ်သည်။

(၃) ပုဒ်လယ် (الحد الأوسط) ပုဒ်လယ်ဟူသည် ကြားခံပုဒ်ဖြစ်ပါသည်။

ဥပမာ➤ النبيذ مسكر، و كل مسكر حرام ، النبيذ حرام

| နိဒါန်းငယ် | နိဒါန်းကြီး | နိဂုံး |
|---|---|---|
| النبيذ مسكر | وكل مسكر حرام | النبيذ حرام |

| ပုဒ်ငယ် | ပုဒ်ကြီး | ပုဒ်လယ် |
|---|---|---|
| النبيذ | حرام | مسكر |

မေးခွန်း။ ။ နိဂုံး ၏ ကတ္တားပုဒ်အား အဘယ်ကြောင့် الحد الأصغر ဟု ခေါ်ရပါသနည်း။

အဖြေ။ ။ ထိုပုဒ်သည် များသောအားဖြင့် အများနှင့် မသက်ဆိုင်သောကြောင့် الأصغر ဟုခေါ်ပါသည်။

မေးခွန်း။ ။ နိဂုံး၏ ဝါစက်ပုဒ်ကို အဘယ်ကြောင့် الحد الأكبر ဟု ခေါ်ရပါသနည်း။

အဖြေ။ ။ ထိုပုဒ်သည် များသောအားဖြင့် အများနှင့် သက်ဆိုင်သောကြောင့် الحد الأكبر ဟုခေါ်ပါသည်။

မေးခွန်း။ ။ နှစ်ခါပြန်လာသောပုဒ်ကို အဘယ်ကြောင့် الحد الأوسط ဟု ခေါ်ရပါသနည်း။

အဖြေ။ ။ ထိုပုဒ်သည် أصغر နှင့် أكبر အကြား၌ ကြားခံဖြစ်သောကြောင့် الأوسط ဟုခေါ်ရပါသည်။

(နိဒါန်းကြီး) **المقدمة الكبرى** ၊ (နိဒါန်းငယ်) **المقدمة الصغرى**
နှင့် **نتيجة** (နိဂုံး) ဟူသည် အဘယ်နည်း။
الحد الأصغر ပါသော အဆိုကို صغرى ခေါ်ဆိုပါသည်။
الحد الأكبر ပါသော အဆိုကို كبرى ခေါ်ပါသည်။
أصغر နှင့် أكبر ပေါင်းစည်းမှု၏ရလဒ်ကို النتيجة ၊ المطلوب
(နိဂုံး) ဟု ခေါ်သည်။

## القياس الاقترانى الحملى ၏ ဥပမာများ

| المقدمة الكبرى | المقدمة الصغرى |
|---|---|
| وكل مؤلف حادث | كل جسم مؤلف |

| الحد الأكبر | الحد الأوسط | الحد الأصغر |
|---|---|---|
| حادث | مؤلف | جسم |

الحد الأصغر အား الحد الأكبر ➤ ဒါမှ ထုတ်သည့်နည်းလမ်းမှာ نتيجة
နှင့် ပေါင်းစည်းလိုက်ပြီး الحد الأوسط ကို ဖြုတ်ချလိုက်ပါ။
ဤနည်းလမ်းဖြင့် نتيجة ထုတ်ရာ فكل جسم حادث ရရှိလာပါသည်။

## القياس الاقترانى (ခေါ်) الأشكال الأربعة ၏ ဌာနလေးခုကို လေ့လာခြင်း
## (ယတိပြတ်တြိယုတ္တိဆင်ခြေ၏ ဌာနလေးခုကို လေ့လာခြင်း)

الأوســـــط (ပုဒ်လယ်) ၏ နေရာအပြောင်းအလဲကို အခြေခံလျှက် ပေါ်ထွက်လာသော قضية ၏ ပုံစံများကို شكل (ဌာန) ဟုခေါ်ပါသည်။

قضية ၏ ဌာနလေးခု ရှိပါသည်။

(၁) الحدالأوسط သည် صغرى ၌ محمول ဖြစ်ပြီး၊ كبرى ၌ موضوع ဖြစ်သည့်ပုံစံ။

(၂) الحدالأوسط သည် صغرى နှင့် كبرى နှစ်ခုစလုံး၌ محمول ဖြစ်သည့်ပုံစံ။

(၃) الحد الأوسط သည် صغرى နှင့် كبرى နှစ်ခုစလုံး၌ موضوع ဖြစ်သည့်ပုံစံ။

(၄) الحد الأوسط သည် صغرى ၌ موضوع ဖြစ်ပြီး၊ كبرى ၌ محمول ဖြစ်သည့်ပုံစံ။

## الشكل الأول (ခေါ်) ပထမဌာန

**الحدالأوسط** သည် **صغرى** ၌ **محمول** ဖြစ်ပြီး ၊ **كبرى** ၌ **موضوع** ဖြစ်သည့်ပုံစံ။

တနည်းအားဖြင့် ပုဒ်လယ်သည် နိဒါန်းငယ်၏ဝါစက်ပုဒ်ဖြစ်၍ နိဒါန်းကြီး၏ကတ္တားပုဒ်ဖြစ်သည့်ပုံစံ။

(أ) عَلِيٌّ مُؤْمِنٌ صَادِقُ الإِيْمَانِ ، وَكُلُّ مُؤْمِنٍ صَادِقِ الْإِيْمَانِ يَدْخُلُ الْجَنَّةَ ، عَلِيٌّ يَدْخُلُ الْجَنَّةَ .

| عَلِيٌّ | مُؤمن صادق الإيمان | وكل مؤمن صادق الإيمان | يدخل الجنة |
|---|---|---|---|
| موضوع (حد أصغر) | موضوع (حد أوسط) | موضوع (حدأوسط) | محمول (حدأكبر) |

النتيجة : عَلِيٌّ يَدْخُلُ الجَنَّةَ

(ب) كل بنى آدم خطاء ، وخير الخطائين التوابون ،

| كُلُّ بَنِيْ آدم | خَطَّاءٌ | وَخَيْرُ الخّطَائين | التوابون |
|---|---|---|---|
| موضوع (حدأصغر) | محمول (حدأوسط) | موضوع (حد أوسط) | محمول (حدأكبر) |

النتيجة : فخير بنى آدم التوابون

(ج) كلكم راع , وكل راع مسؤول عن رعيته

| كلكم | راع | وكل راع | مسؤول عن رعيته |
|---|---|---|---|
| موضوع (حد أصغر) | محمول (حدأوسط) | موضوع (حدأوسط) | محمول (حد أكبر) |

**الشكل الأول** ဖြစ်ပေါ်လာရန် လိုအပ်သည့်သတ်မှတ်ချက်များ

(၁) **صغرى** သည် **موجبة** ဖြစ်ရမည်။

(၂) **كبرى** သည် **كلية** ဖြစ်ရမည်။

တနည်းအားဖြင့် နိဒါန်းငယ်သည် အဟုတ်အဆို ဖြစ်ရမည်။ နိဒါန်းကြီးသည် ယေဘုယျအဆိုဖြစ်ရမည်။

## الشكل الثانى (ခေါ်) ဒုတိယဒွာန

**محمول** **كبرى** နှင့် **صغرى** နှစ်ခုစလုံး၌ **الحدالأوسط** သည် ဖြစ်သည့်ပုံစံ။

ပုဒ်လယ်သည် နိဒါန်းငယ်နှင့် နိဒါန်းကြီး နှစ်ခုလုံးတွင် ဝါစကံပုဒ်ဖြစ်သည့်ပုံစံ။

(أ) كُلُّ مُجَاهِدٍ فِىْ سَبِيْلِ اللّٰهِ تَقِىٌّ وَلَاأَحَدَ مِنَ الْخَائِنِيْنَ بِتَقِىٍّ .

| كل مجاهد فى سبيل الله | تقـى | ولاأحد من الخائنين | بتقى |
|---|---|---|---|
| موضوع (حد أصغر) | محمول (حد أوسط) | موضوع (حد أكبر) | محمول (حدأوسط) |

النتيجة : فَلَيْسَ أَحَدٌ مِنَ الْمُجَاهِدِيْنَ فِىْ سَبِيْلِ اللهِ بِخَائِنٍ .

(ب) لَا مُخَلَّدَ فِىْ الْعَذَابِ مُؤْمِنٌ وَكُلُّ مَنْ مَاتَ مُقِرًّا بِالشَّهَادَتَيْنِ مُؤْمِنٌ .

| لامخلد فى العذاب | مؤمن | وكل من مات مقرّا بالشهادتين | مؤمن |
|---|---|---|---|
| موضوع (حد أصغر) | محمول (حد أوسط) | موضوع (حد أكبر) | محمول (حد أوسط) |

النتيجة :فَلَا مُخَلَّدَ فِى الْعَذَابِ مَنْ مَاتَ مُقِرًّا بِالشَّهَادَتَيْنِ .

**الشكل الثانى** ဖြစ်ပေါ်လာရန် လိုအပ်သည့် သတ်မှတ်ချက်များ

(၁) صغرى နှင့် كبرى ၊ مقدمة နှစ်ခုသည် إيجاب နှင့် سلب ဖြစ်ခြင်း၌ တစ်ခုနှင့်တစ်ခု ကွဲပြားရမည်။

(၂) كبرى သည် كلى ဖြစ်ရမည်။

တနည်းအားဖြင့် နိဒါန်းကြီးနှင့် နိဒါန်းငယ် နှစ်ခုလုံးသည် တစ်ခုနှင့်တစ်ခု အဟုတ်အဆို နှင့် မဟုတ်အဆိုဖြစ်ခြင်းတွင် မတူညီရ။ ထို့အတူ နိဒါန်းကြီးသည် ယေဘုယျအဆိုဖြစ်ရမည်။

## **الشكل الثالث** (ခေါ်) တတိယဌာန

**موضوع** နှစ်ခုစလုံး၌ **كبرى صغرى** နှင့် **الحد الأوسط** သည် ဖြစ်သည့်ပုံစံ။

တနည်းအားဖြင့် ပုဒ်လယ်သည် နိဒါန်းကြီးနှင့်နိဒါန်းငယ် နှစ်ခုလုံးတွင် ကတ္တားပုဒ် ဖြစ်သည့်ပုံစံ။

(أ) كُلُّ إِنْسَانٍ حَيْوَانٌ ، وَكُلُّ إِنْسَان قَابِلٌ لِّلْعِلْمِ وَصَنْعَةِ الْكِتَابَةِ .

| كل إنسان | حيوان | و كل إنسان | قابل للعلم وصنعة الكتابة |
|---|---|---|---|
| موضوع (حد أوسط) | محمول (حدأصغر) | موضوع (حد أوسط) | محمول (حد أكبر) |

النتيجة : بَعْضُ الْحَيوانِ قَابِلٌ لِّلْعِلْمِ وَصَنْعَةِ الْكِتَابَةِ .

**الشكل الثالث** ဖြစ်ပေါ်လာရန် လိုအပ်သည့် သတ်မှတ်ချက်များ

(၁) صغرى သည် موجبة ဖြစ်ရမည်။

(၂) صغرى နှင့် كبرى နှစ်ခုအနက် တစ်ခုသည် كلى ဖြစ်ရမည်။

တနည်းအားဖြင့် နိဒါန်းငယ်သည် အဟုတ်အဆိုဖြစ်ရမည်။ ထို့အတူ နိဒါန်းငယ်နှင့်နိဒါန်းကြီး နှစ်ခုအနက် တစ်ခုသည် ယေဘုယျအဆိုဖြစ်ရမည်။

## الشكل الرابع (ခေါ်) စတုတ္ထပုံ

**محمول** ၌ **كبرى** ၌ **موضوع** ၌ **صغرى** သည် **الحد الأوسط** ဖြစ်ပြီး၊ ဖြစ်သည့်ပုံစံ။

တနည်းအားဖြင့် ပုဒ်လယ်သည် နိဒါန်းငယ်တွင် ကတ္တားပုဒ်ဖြစ်ပြီး၊ နိဒါန်းကြီးတွင် ဝါစကပုဒ်ဖြစ်သည့် ပုံစံ။

(أ) كُـلُّ مَـنْ يَخْشَى اللّٰهَ حَقًّا فَهُوَ عَالِمٌ وَكُلُّ مُلْتَزِمٍ بِأَحْكَامِ الدِّيْنِ تَمَامًا فَهُوَ يَخْشَى اللّٰهَ حَقًّا .

| كل من يخشى الله حقا | فهو عالم | و كل ملتزم بأحكام الدين تماما | فهو يخشي الله حقا |
|---|---|---|---|
| موضوع (حدأوسط) | محمول (حد أصغر) | موضوع (حد أكبر) | محمول (حد أوسط) |

النتيجة : فَبَعْضُ مَنْ هُوَ عَالِمٌ بِاللّٰهِ مُلْتَزِمٌ بِأَحْكَامِ الدِّيْنِ.

စတုတ္ထဥ္ပာနသည် အခက်ဆုံးနှင့် အရှုပ်ထွေးဆုံး ဖြစ်သည့်အတွက် ကြောင့် استدلالات များတွင် အသုံးနည်းလွန်းပါသည်။ ထို့ကြောင့် စတုတ္ထ ဥ္ပာနအတွက် လိုအပ်သည်အချက်အလက်များကိုလည်း မဖေါ်ပြတော့ပါ။

## الشكل الأول အတွက် လိုအပ်သော သတ်မှတ်ချက်များ

ပြည့်စုံပြီးနောက် ၎င်းသည် ပုံစံလေးမျိုး ခွဲထွက်နိုင်ပါသည်။
စည်းကမ်းချက်များကို နောက်တစ်ကြိမ် ထပ်မံဖော်ပြရသော်-
စည်းကမ်းချက် (၁) صغرى သည် موجبة ဖြစ်ရမည်။
စည်းကမ်းချက်(၂) كبرى သည် كلى ဖြစ်ရမည်။

محمول ၌ صغرى သည် الحدالأوسط (ခေါ်) الشكل الأول ဖြစ်ပြီး၊ كبرى ၌ موضوع ဖြစ်သည့်ပုံစံလေးမျိုး။

صغرى كبرى نتيجة

(١) م ك + م ك = م ك (كل إنسان حيوان ، و كل حيوان جسم ، فكل إنسان جسم)

(٢) م ك + س ك = س ك (كل إنسان حيوان و لاشئ من الحيوان بحجر,فلاشئ من الإنسا بجحر)

(٣) م ج + م ك = م ج (بعض الحيوان إنسان و كل إنسان ناطق ، فبعض الحيوان ناطق )

(٤) م ج + س ك = س ج (بعض الحيوان ضاحك و لاشئ من الضاحك بفرس ، فبعض الحيوان ليس بفرس)

အထက်ဖော်ပြခဲ့သော ပုံစံလေးမျိုး၌ م သည် موجبة အား ဆိုလို သည်။
س သည် سالبة အားဆိုလိုသည်။
ك သည် كلية အားဆိုလိုသည်။
ج သည် جزئية အား ဆိုလိုသည်။

**الشكل الثانى** အတွက် လိုအပ်သော သတ်မှတ်ချက်များ ပြည့်စုံပြီးနောက် ၎င်းသည် ပုံစံလေးမျိုးခွဲထွက်နိုင်ပါသည်။

စည်းကမ်းချက်များကို တစ်ကြိမ် ထပ်မံဖော်ပြရသော်-

စည်းကမ်းချက်(၁) كبرى နှင့် صغرى ၊ مقدمة နှစ်ခုသည် إيجاب နှင့် سلب ဖြစ်ခြင်း၌ ကွဲပြားရမည်။

စည်းကမ်းချက်(၂) كبرى သည် كلية ဖြစ်ရမည်။

الشكل الثانى (ဝါ) الحدالأوسط သည် صغرى နှင့် كبرى နှစ်ခု စလုံး၌ محمول ဖြစ်သည့်ပုံစံလေးမျိုး။

صغرى كبرى نتيجة

(١) م ك + س ك = س ك (كل حى من الناس يأكل ، ولاصنم يأكل ، فلا حى من الناس بصنم)

(٢) س ك + م ك = س ك (لا حزين مسرور ، ولاضاحك بالفعل مسرور ، فلا حزين بضاحك بالفعل)

(٣) م ج + س ك = س ج (بعض الناس كاتب ، ولاأحد من الأميين بكاتب ، فليس بعض الناس بأمى )

(٤) س ج + م ك = س ج (بعض الناس لايدخلون الجنة ، وكل مؤمن يدخل الجنة ، فبعض الناس ليسوا بمؤمنين)

**الشكل الثالث** အတွက် လိုအပ်သော သတ်မှတ်ချက်များ ပြည့်စုံပြီးနောက် ရင်းသည် ပုံစံ(၆)မျိုး ခွဲထွက်နိုင်ပါသည်။

စည်းကမ်းချက်(၁) صغرى သည် موجبة ဖြစ်ရမည်။

စည်းကမ်းချက်(၂) صغرى နှင့် كبرى နှစ်ခုအနက် တစ်ခုသည် كلى ဖြစ်ရမည်။

الشكل الثالث (ခေါ်) الحد الأوسط သည် صغرى နှင့် كبرى နှစ်ခုစလုံး၌ موضوع ဖြစ်သည့်ပုံစံ။

صغرى كبرى نتيجة

(١) م ك + م ك = م ج (كل إنسان حيوان , وكل إنسان قابل للعلم وصنعة الكتابة, بعض الحيوان قابل للعلم وصنعة الكتابة)

(٢) م ك + س ك = س ج (كل نائم يفقد حسه الظاهر ,ولانائم مكلف شرعا, فليس بعض من يفقد حسه الظاهر هو مكلف شرعا)

(٣) م ك + م ج = م ج (كل خطاط ماهر صنعة البنان, وبعض الخطاطين رسامون, فبعض ماهر صنعة البنان رسامون)

(٤) م ك + س ج = س ج (كل صبى هو دون التكليف الشرعى , وليس بعض الصبيان تصح صلاته , فليس بعض من هو دون التكليف الشرعى تصح صلاته )

(٥) م ج + م,ك = م ج ( بعض الناس شعراء,و كل الناس يتنفسون برئاتهم ,فبعض الشعراء يتنفسون برئاتهم)

(٦) م ج + س, ك = س ج (بعض الورد أحمر,ولاشئ من الورد بدم, **فبعض الأحمر ليس بدم)**

**القياس الاقتراني الشرطي ၏ အမျိုးအစားများ**

**القياس الشرطي** ၏ အမျိုးအစား (၅) ခု ရှိပါသည်။

(၁) **متصلة** နှစ်ခုဖြင့် ဖွဲ့စည်းထားသည့် ပုံစံ။

(၂) **منفصلة** နှစ်ခုဖြင့် ဖွဲ့စည်းထားသည့် ပုံစံ။

(၃) **متصلة** နှင့် **منفصلة** ဖွဲ့စည်းထားသည့် ပုံစံ။

(၄) **متصلة** နှင့် **حملية** နှစ်ခုဖြင့် ဖွဲ့စည်းထားသည့် ပုံစံ။

(၅) **منفصلة** နှင့် **حملية** နှစ်ခုဖြင့် ဖွဲ့စည်းထားသည့် ပုံစံ။

**الاقترانى** သို့သကဲ့သို့ **الأشكال الأربعة** ၌ **الاقترانى الحملى الشرطى** ၌လည်း ရှိပါသည်။

(၁) **مقدم** ၌ **كبرى** ၊ **تالى** ၌ **صغرى** ဖြစ်ပြီး ၎င်းသည် **الحدالأوسط** ဖြစ်သည့်ပုံစံ။

(၂) **تالى** ၌ **كبرى** နှင့် **صغرى** နှစ်ခုစလုံး၌ ၎င်းသည် **الحدالأوسط** ဖြစ်သည့်ပုံစံ။

(၃) **مقدم** ၌ **كبرى** နှင့် **صغرى** နှစ်ခုစလုံး၌ ၎င်းသည် **الحد الأوسط** ဖြစ်သည့်ပုံစံ။

(၄) **تالى** ၌ **كبرى** ၊ **مقدم** ၌ **صغرى** ဖြစ်ပြီး ၎င်းသည် **الحد الأوسط** ဖြစ်သည့်ပုံစံ။

الشكل الأول (ဝါ) الحدالأوسط သည် صغرى ၌ تالى ဖြစ်ပြီး၊ كبرى ၌ مقدم ဖြစ်သည့်ပုံစံ။

كلما أوقدو نارا للحرب علم المسلمون شرها . كلما علم المسلمون شرها أطفأها اللّٰه .

| كلما أوقدوا نارا للحرب | علم المسلمون شرها | كلما علم المسلمون شرها | أطفأها الله |
|---|---|---|---|
| مقدم (حد أصغر) | تالى (حدأوسط) | مقدم (حدأوسط) | تالى (حدأكبر) |

النتيجة : فكلما أوقدوا نارا للحرب أطفأها الله .

الشكل الثانى (ဝါ) الحدالأوسط သည် صغرى နှင့် كبرى နှစ်ခုစလုံး၌ تالى ဖြစ်သည့်ပုံစံ။

مهما تنفس المريض فالحياة باقية فيه . وليس أحد من الجامدات بذى حياة.

| مهما تنفس المريض | فالحياة باقية فيه | وليس أحد من الجامدات | بذى حياة |
|---|---|---|---|
| مقدم (حدأصغر) | تالى (حدأوسط) | مقدم (حدأكبر) | تالى (حدأوسط) |

النتيجة : فليس البتة إذا تنفس المريض فهو من الجامدات .

الشكل الثالث (ဝါ) ဆိုသည် الحد الأوسط صغرى နှင့် كبرى နှစ်ခုစလုံး၌ مقدم ဖြစ်သည့်ပုံစံ။

كلما كانت الثمرة تفاحا كانت فاكهة . وكلما كانت تفاحا كانت قابلة لأن تعصر شرابا.

| كلما كانت الثمرة تفاحا | كانت فاكهة | وكلما كانت تفاحا | كانت قابلة لأن تعصرشرابا |
| --- | --- | --- | --- |
| مقدم (حدأوسط) | تالى (حدأصغر) | مقدم (حدأوسط) | تالى (حدأكبر) |

النتيجة : فقد يكون إذا كانت الثمرة فاكهة كانت قابلة لأن تعصر شرابا.

الشكل الرابع (ဝါ) ဆိုသည် الحد الأوسط صغرى ၌ مقدم ဖြစ်ပြီး၊ كبرى ၌ تالى ဖြစ်သည့်ပုံစံ။

كلما كان المسلم صادقا فى إيمانه كان رحمة للناس .
وبعض المسلمين صادقون فى إيمانهم .

| كلما كان المسلم صادقا فى إيمانه | كان رحمة للناس | وبعض المسلمين | صادقون فى إيمانهم |
| --- | --- | --- | --- |
| مقدم (حدأوسط) | تالى (حد أصغر) | مقدم (حدأكبر) | تالى (حدأوسط) |

النتيجة: فقد يكون بعض المسلمين رحمة للناس .

الشـــكـــل الأول အတွက် ဖော်ပြခဲ့သော စည်းကမ်းချက်နှင့်အညီ ရင်းသည် ပုံစံလေးမျိုး ခွဲထွက်နိုင်ပါသည်။

စည်းကမ်းချက်များကို တစ်ကြိမ် ထပ်မံဖော်ပြရသော်---

စည်ကမ်းချက် (၁) صغرى သည် موجبة ဖြစ်ရမည်။

စည်းကမ်းချက်(၂) كبرى သည် كلى ဖြစ်ရမည်။

الشكل الأول (ဝါ) الحدالأوسط သည် صغرى ၌ تالى ဖြစ်ပြီး၊ كبرى ၌ مقدم ဖြစ်သည့်ပုံစံ။

صغرى كبرى نتيجة

(١) م ك + م ك = م ك (وما تنفقوا من شئ فقد وعد الله بإخلافه ، ومـاوعـد الـلـه بأخلافه فهو مخلوف، فما تنفقوامن شئ فهو مخلوف )

(٢) م ك + س ك = س ك

**شـرطية متصلة** (كـلـمـاجـاء هـم رسـول بمالا تهوى أنفسهم ففريقا كـذبـوا وفريقا يقتلون ، ولاأحد من مكذبى الرسل أوقاتليهم بناجحين مـن العذاب ، فـليـس البتة كـلـمـا جـاء هم رسول بمالاتهوى أنفسهم بناجحين من العذاب )

**شرطية منفصلة** (دائما اما أن يكون العدد زوجا أوفردا، ولافرد ينقسم بمتساويين ، فليس البتة إما أن يكون العدد زوجا أو ينقسم بمتساويين )

(٣) م ج + م ك = م ج

**شرطية متصلة** (قـد يـكـون إذا كـان الثمرمأكولا كان طيب الرائحة ، وكلما كان المأكول طيب الرائحة كان مطعوما ومشموما ، فقد يكون

الثمر مأكولا كان مطعوما ومشموما )

**شـرطية منفصلة** (ربـمـا اذا درس الـطـالـب علوم الشريعة صار عالما، ودائـمـا إمـا أن يـكـون العالم عاملا أو غير عامل ، فقد يكون إذا درس الطالب علوم الشريعة كان عاملا أو غير عامل)

(٤) م ج + س ك = س ج (قد يكون إذا استغفر العاصى ربه غفر له ، ولا أحد ممن يغفر الله لهم بمعذب ، فليس كلما استغفر العاصى ربه كان معذبا )

الشــكــل الثــانــى အတွက် ဖေါ်ပြခဲ့သော စည်းကမ်းချက်နှင့်အညီ ၎င်းသည် ပုံစံလေးမျိုးခွဲထွက်နိုင်ပါသည်။

စည်းကမ်းချက်များကို တစ်ကြိမ် ထပ်မံဖေါ်ပြရသော်-

စည်းကမ်းချက်(၁) كبـرى ၊ صـغـرى နှင့် مـقـدمة နှစ်ခုသည် إيجاب နှင့် سلب ဖြစ်ခြင်း၌ ကွဲပြားရမည်။

စည်းကမ်းချက်(၂) كبرى သည် كلية ဖြစ်ရမည်။

الشـكـل الثانى (ဝါ) الـحدالأوسط သည် صـغرى နှင့် كبرى နှစ်ခုစလုံး၌ تالى ဖြစ်သည့်ပုံစံ။

صغرى كبرى نتيجة

(١) م ك + س ك = س ك

**شرطية متصلة** ( مهـمـا تـنفس المريض فالحياة باقية فيه ، وليس أحد مـن الـجـامـدات بـذى حيـاة ، فليس البتة اذا تنفس المريض فهو من الجامدات )

**شـرطية منفصلة** ( دائـمـا إمـا أن تـكـون الطهارة الشرعية بالماء وإما بـالتـراب ، ولا شـئ من الشعير بتراب، فليس البتة إما أن تكون الطهارة الشرعية بالماء أو بالشعير )

(٢) س ك + م ك = س ك

**شرطية متصلة** ( ليـس البتة إذا كان الجسد يتحرك بالإرادة فهو ميت ، وكـل جسـد لا يـأكـل ولايتنفس هو ميت ، فليس البتة إذا كان الجسد يتحرك بالإرادة فهو لا يأكل ولايتنفس )

**شرطية منفصلة** (ليـس البتة إما يكون العدد زوجا أو ينقسم إلى متساويين ، وكـل ما ليس بفرد ينقسم إلى متساويين، فليس البتة إما أن يكون العدد زوجا أوهو ليس بفرد )

(٣) م ج + س ك = س ج

**شرطية متصلة** (قد يكون اذا كان الإنسان مسلما كان صادق اللسان، ولا أحـد مـن المشركين صادق اللسان ، فقد لا يكون اذا كان الإنسان مسلما فهو واحد من المشركين )

**شرطية منفصلة** ( أحيانا إما أن تكون الخيل دهما أو غبرا ، ولا أحد من حسـان الـخيـل بـأغبـر ، فـليـس دائـمـا إما أن تكون الخيل دهما أو من حسان الخيل )

(٤) س ج + م ك = س ج

**شرطية متصلة** (قد لا يكون إذا كان الإنسان طويلا كان أسود البشرة، وكـل زنـجـى أسـود البشـرة، فقد لا يكون إذا كان الإنسان طويلا فهو زنجى )

**شرطية منفصلة** (أحيـانـا لا يكون أحد الشيئين إما أكبر من صاحبه أو أصغر، وكلما كان أحد الشيئين مساويا للآخرفهو لاأصغر ولا أكبرمنه ، فقد لا يكون أحد الشيئين إما أكبر من صاحبه أو مساويا له )

الشـــكـل الثـــالـث အတွက် ဖေါ်ပြခဲ့သော စည်းကမ်းချက်နှင့်အညီ ရင်းသည် ပုံစံ(၆)မျိုးခွဲထွက်နိုင်ပါသည်။

စည်းကမ်းချက်များကို တစ်ကြိမ် ထပ်မံဖေါ်ပြရသော် -

စည်းကမ်းချက်(၁) صغرى သည် موجبة ဖြစ်ရမည်။

စည်းကမ်းချက်(၂) صغرى နှင့် كبرى နှစ်ခုအနက် တစ်ခုသည် كلى ဖြစ်ရမည်။

الشكل الثالث (ခေါ်) الحد الأوسط သည် صغرى နှင့် كبرى နှစ်ခုစလုံး၌ مقدم ဖြစ်သည့်ပုံစံ။

صغرى كبرى نتيجة

(١) م ك + م ك = م ج

**شرطية متصلة** (كـلـمـا كـانـت الثمرة تفاحا كانت فاكهة ، و كلما كـانت تفاحا كانت قابلة لأن تعصر شرابا ، فقد يكون إذا كانت الثمرة فاكهة كانت قابلة لأن تعصر شرابا )

**شرطية منفصلة** (دائما إما يكون الحيوان الماشي يمشي على بطنه أو على أرجل ، ودائما إما يكون الماشي يمشي على رجلين أو أكثر )

(٢) م ك + س ك = س ج

**شرطية متصلة** ( كلما كان الحيوان إنسانا قابلا للتعلم وصنعة الكتابة ، وليـس البتة إذا كـان الـحيـوان إنسـانا كان طيرا، فقد لا يكون إذا كان قابلا للتعلم كان طيرا)

**شرطية منفصلة** ( دائـمـا إما أن يكون أحد الأبوين أبا أو أما، ولا أحد من الآباء أنثى فقد لا يكون إما أن يكون أحد الأباء أما أو أنثى )

(٣) م ك + م ج = م ج

**شـرطية متصلة** ( كـلـمـا كـان الـنـفس رضية كانت سعيدة ، وبعض الـنـفوس الرضية تقية مؤمنة ، فقد يكون إذا كانت النفس سعيدة كانت تقية مؤمنة)

**شـرطية منفصلة** ( دائـمـا إمـا أن يـكـون الماء سائلا أو متجمدا ، وقد يـكـون إذا كان الماء سائلا كان ملحا أجاجا ، فقد يكون إما أن يكون الماء متجمدا كان ملحا أجاجا )

(٤) م ك + س ج = س ج

**شرطية متصلة** (كـلـمـا كـان الـعـلـم نافعا للدين أوللدينا كان مطلوبا شرعيا وقد لا يكون العلم النافع للدين أو للدنيا من العلوم الشرعية ، فقد لا يكون إذا كان العلم مطلوبا شرعا كان من العلوم الشرعية)

**شرطية منفصلة** (دائـمـا إما أن يكون الإنسان جائعا أو شبعان ، وقد لا يـكـون الـجـائـع واجـدا لما يأكل ، فقد لا يكون إما أن يكون الإنسان شبعان أو واجدا لما يأكل )

(٥) م ج + م,ك = م ج

**شـرطية متصلة** (قـد يـكـون إذا كـان الـمـكـان مضيئا كان ذ لك من نـورمـصـبـاح ، وكـلما كان المكان مضيئا كان صالحا للرؤية والمشي فيـه، فـقـد يـكـون إذا أضـاء المكان من نور مصباح كان صالحا للرؤية والمشى فيه )

**شرطية منفصلة** (أحيـانا إما أن يكون المصلي راكعا أو ساجدا ، وكل مـصـل راكـع هـو خاضع لربه ، فأحيانا إما أن يكون المصلي ساجدا أو خاضعا لربه)

(٦) م ج + س,ك = س ج

**شرطية متصلة** (ربما إذا كان السمك فى الماء كان حيا ، ولا شئ من السمك بطائر ، فقد لا يكون إذا كان السمك حيا كان طائرا )

شرطية منفصلة (قد يكون إما أن يكون الباذنجان أبيض أو أسود ، ولا شئ من الباذنجان بذي أشجار معمرة، فقد لا يكون إما أن يكون الباذنجان أسود أو أشجار معمرة ).

## **القياس الاستثنائى** ၏ အမျိုးအစားများ

قضية حملية နှင့် قضية شرطية သည် القياس الاستثنائى ပေါင်းစည်းထားပါသည်။ ထို قضية နှစ်ခုအကြားတွင် لكن ကဲ့သို့ ခြွင်းချက်ပြဝိဘတ်များဖြင့် ခြားနားထားပါသည်။

အထက်တွင် ဖေါ်ပြခဲ့သည့်အတိုင်း **القياس الاستثنائى** သည် **قضية حملية** နှင့် **شرطية** ပေါင်းစည်းထားသော **قياس** ကိုခေါ်ပါသည်။

(၁) **متصلة** နှင့် **حملية** ပေါင်းစည်းထားသောပုံစံ။

(၂) **منفصلة حقيقية** နှင့် **حملية** ပေါင်းစည်းထားသည့်ပုံစံ။

(၃) **مانعة الجمع** နှင့် **حملية** ပေါင်းစည်းထားသော ပုံစံ။

(၄) **مانعة الخلو** နှင့် **حملية** ပေါင်းစည်းထားသော ပုံစံ။

(၁) **حملية** နှင့် **متصلة** ပေါင်းစည်းထားသောပုံစံ။

➢ **كلـما كانت الشمس طالعة كان النهار موجودا ، لكن الشمس طالعة فالنهار موجود**

عين التالى ရမည် နတီဂျ ၌ نتيجة ကဲ့သို့ استثناء လုပ်ပါက عين المقدم ကို ဖြစ်သည်။

➢ كلـما كـانت الشمس طالعة كان النهار موجودا , لكن النهار ليس بموجود فالشمس ليست بطالعة .

نقيض المقدم ရမည် ၌ نتيجة ကဲ့သို့ استثناء လုပ်ပါက نقيض التالى ကို ဖြစ်သည်။

(၂) **حملية** နှင့် **منفصلة حقيقية** ပေါင်းစည်းထားသောပုံစံ။

➢ العدد إما زوج أو فرد لكنه فرد فليس بزوج .

مقدم နှင့် تالى အနက်မှ တစ်ခုခုအား استثناء လုပ်လိုက်ခြင်းဖြင့် نتيجة ၌ ကျန်တစ်ခု၏ نقيض ရမည် ဖြစ်သည်။

(၃) **حملية** နှင့်**منفصلة مانعة الجمع** ပေါင်းစည်းထားသောပုံစံ။

➢ هذا الشئ إما أن يكون حجرا أوشجرالكنه حجرفلايكون شجرا.

جزء နှစ်ခုအနက်မှ တစ်ခုခု၏ عين ကို استثناء လုပ်လိုက်ခြင်းဖြင့် نتيجة ၌ ကျန်တစ်ခု၏ نقيض ရမည် ဖြစ်သည်။

(၄) حملية နှင့် منفصلة مانعة الخلو ပေါင်းစည်းထားသောပုံစံ။

➢ إماأن يكون هذا الشئ لاشجرا أولاحجرالكنه شجرفلايكون حجرا.

နှစ်ခုအနက်မှ တစ်ခုခု၏ **عين** ကို **استثناء** လုပ်လိုက်ခြင်းဖြင့် **نتيجة** ၌ ကျန်တစ်ခု၏ **عين** ရရှိမည်ဖြစ်သည်။

# လေ့ကျင့်ခန်း(၂၁)

(၁) القياس ၏ تعريف လုပ်၍ ၎င်း၏ အမျိုးအစားများကို ဖော်ပြပါ။

(၂) القياس الاقترانى နှင့် القياس الاستثنائى ဆိုသည်မှာ အဘယ်နည်း။

(၃) القياس الاقترانى ၏ အမျိုးအစားမည်မျှရှိပါသနည်း။

(၄) အောက်ပါတို့အား အဓိပ္ပာယ်ဖွင့်ဆိုပါ။

(၁) الحد الأصغر (၂) الحد الأكبر (၃) الحد الأوسط

(၄) الصغرى (၅) الكبرى

(၅) الأشكال الأربعة ဆိုသည်မှာ မည်သည့်ပုံစံများကို ခေါ်ပါသနည်း။ الشكل ၏အဓိပ္ပာယ်မှာ အဘယ်နည်း။ الشكل الأول ၏စည်းကမ်းချက်များကို ဖော်ပြပါ။

(၆) القياس الاستثنائى ၏ အဓိပ္ပာယ် ဖွင့်ဆိုပါ။

(၇) القياس الاستثنائى ၏ အမျိုးအစား မည်မျှရှိပါသနည်း။ نتيجة ထုတ်ရမည့် ပုံစံကို ဖော်ပြပေးပါ။

# الاستقراء

الاستـــقــــراء ဆိုသည်မှာ အဖွဲ့အစည်း၊ အစုအဝေးတစ်ခု၏ အခြေအနေမှန်ကိုသိရန် ထိုအဖွဲ့အစည်း၊ အစုအဝေးတွင် ပါဝင်သော အစိတ်အပိုင်းတိုင်းကို (သို့မဟုတ်) အချို့သော အစိတ်အပိုင်းများကို လေ့လာသုံးသပ်ခြင်း။

مـــنـطــق ပညာရှင်တို့ထံတွင် الاستــقـــراء ဟူသည် کـــلـــی ၏ အခြေအနေမှန်ကို သိနိုင်ရန် جـــزئيـــات တချို့ကို (သို့မဟုတ်) အားလုံးကို လေ့လာသုံးသပ်ခြင်းဖြစ်ပါသည်။

( قيـــاس နှင့် الاستــقـــراء သည် အချင်းချင်း ဆန့်ကျင်ဘက်ပုံစံများဖြစ်ကြသည်။ الــقيـــاس ၌ ကဝိဒအဆိုတစ်ခုကို အတည်ပြုစေရန် ယေဘုယျအဆိုအား အထောက်ထားအဖြစ် အသုံးချရသည်။)

الاستـقـراء ၏ ဥပမာ ➢ الـحيـوان အမြောက်အမြားရှိသည့်အနက် (ကုတ်ဖဲ့ စားသောက်သောသတ္တဝါ၊ ပျံသန်းသော သတ္တဝါ ၊ ခြေလေးချောင်းသတ္တဝါ) စသည့်သတ္တဝါအသီးသီးတို့၏ အခြေအနေများကို သုံးသပ်လိုက်သည့်အခါ ၎င်းတို့သည် အစားအစာကိုဝါးရန် မိမိတို့၏အောက်ပါးစောင်များကို လှုပ်ရမ်းကြသည်။ ထို့ကြောင့် သတ္တဝါဟူသည် အစားဝါးသည့်အခါ မိမိ၏အောက်ပါးစောင်ကို လှုပ်ရမ်းသည်ဟု သတ်မှတ်လိုက်ပါသည်။

အထောက်အထားအဖြစ် တင်ပြသည့်ပုံစံမှာ- သတ္တဝါ **အများပိုင်း** တို့သည် အစာဝါးသောအခါ မိမိတို့၏အောက်ပါးစောင်ကို လှုပ်ကြသည်။ ထို့ကြောင့် သတ္တဝါဟူသည် အစားဝါးသည့်အခါ အောက်ပါးစောင်ကို လှုပ်ရမ်းပါသည်။

သတ္တဝါများအနက်မှ အစာဝါးသောအခါ မိမိ၏ အောက်ပါးစောင်ကို မလှုပ်ရမ်းသော သတ္တဝါရှိသည်ကို လက်ခံပါသည်။ ထိုသတ္တဝါမှာ မိကျောင်းဖြစ်ပါသည်။ ထို့ကြောင့် **အများပိုင်း** ဟု သုံးနှုန်းခဲ့ပါသည်။

## الاستقراء ၏ အမျိုးအစားများ

**الاستقراء** နှစ်မျိုးရှိပါသည်။

(၁) **تام** (အဖွဲ့အစည်းတစ်ခုလုံးအပေါ်ခြုံငုံမိသောသုံးသပ်ချက်)

(၂) **ناقص** (အဖွဲ့အစည်း၏ အချို့အစိတ်အပိုင်းအပေါ်သုံးသပ်ချက်)

**الاستقراء التام** ဆိုသည်မှာ كلى ၏ အခြေ အနေမှန်ကိုသိနိုင်ရန် جزئيات အားလုံးကို လေ့လာသုံးသပ်ခြင်း။

ဥပမာ ➢ - မြို့တစ်မြို့တွင် ရဲသား တစ်ထောင် ရှိပါသည်။ ရဲသား အားလုံးတို့သည် လာဘ်စားကြပါသည်။ ထို့ကြောင့် ((ရဲ)) ဟူသည် လာဘ်စားသည်ဟု သတ်မှတ်လိုက်ခြင်း။

အထက်ဖော်ပြပါဥပမာ၌ ရဲသားအားလုံး (ခေါ်) كلى နှင့် ပတ်သက်သောသတ်မှတ်ချက်ကို ရဲသားအားလုံးတို့၏ အခြေအနေများကို လေ့လာသုံးသပ်ပြီးသည့်နောက်မှ ချမှတ်လိုက်ပါသည်။

**الاستقراء الناقص** ဆိုသည်မှာ كلى ၏ အခြေအနေမှန်ကို သိရန် အချို့သော جزئيات များကို လေ့လာသုံးသပ်ခြင်း။

ဥပမာ ➢ အထက်တွင်ဖော်ပြခဲ့သော ဥပမာ၌ ရဲသားအားလုံး၏ နေရာတွင် ရဲသားအများပိုင်း လာဘ်စားသည်ဟု အစားထိုးလိုက်ပါ။ ထို့နောက် ရဲဟူသည် လာဘ်စားသည်ဟု သတ်မှတ်လိုက်ပါ။

## الاستقراء နှစ်မျိုးလုံး၏ ရလဒ်

(၁) الاستـــقـــراء التـــام သည် အဖွဲ့အစည်းတစ်ခုလုံးအပေါ် ခြုံငုံမိသော သုံးသပ်ချက်ဖြစ်သောကြောင့် တိကျမှန်ကန်သော အဖြေကို ရနိုင်ပါသည်။

(၂) الاستـــقـــراء الـــنـــاقـــص သည် အရေအတွက်အရ အများစု၏အခြေအနေကို လေ့လာထား သော်လည်း အချို့သော အစိတ်အပိုင်းများ၏ အခြေအနေကို လေ့လာသုံးသပ်ရန် ကျန်နေသေးသောကြောင့် အတိအကျမဟုတ်ဘဲ ဖြစ်နိုင်ချေရှိသော အဖြေကိုသာ ရနိုင်ပါသည်။

## လေ့ကျင့်ခန်း(၂၂)

(၁) الاستقراء ၏အဓိပ္ပါယ် ဖွင့်ဆိုပြီး၊ ၎င်း၏ ဥပမာကို တင်ပြပါ။

(၂) الاستقراء ၏ အမျိုးမည်မျှ ရှိပါသနည်း။

(၃) الاستقراء التام နှင့် الاستقراء الناقص တို့အကြား ရလာဒ်အရ မည်သည့် ခြားနားမှုများ ရှိပါသနည်း။

## التمثيل (ကိုယ်စားပြုခြင်း)

التمثيل ဆိုသည်မှာ အဖွဲ့အစည်း၊ အစုအဝေးတစ်ခုတွင် ပါဝင်သော အစိတ်အပိုင်းတစ်ခု၏ အခြေအနေကို ထိုအဖွဲ့အစည်းအတွင်း ပါဝင်သော အခြား အစိတ်အပိုင်းတစ်ခု၏ အခြေအနေဖြင့် ကိုယ်စားပြုတင်ပြခြင်း။

တနည်းအားဖြင့် جزئی တစ်ခု၏ အခြေအနေကို အခြား جزئی တစ်ခု၏

အခြေအနေဖြင့် ကိုယ်စားပြု တင်ပြခြင်းဟုလည်း ဖွင့်ဆိုနိုင်ပါသည်။

ကိုယ်စားပြုသည့်အခါ အစိတ်အပိုင်းနှစ်ခုသည် အချင်းချင်း တစ်ခုနှင့်တစ်ခု علة တူရန် အရေးကြီးပါသည်။ သို့မှသာ တစ်ခု၏ حكم (အမိန့်တော်) ကို ကိုယ်စားပြုသည့်အနေဖြင့် အခြား အစိတ်အပိုင်းတစ်ခု ဘက်သို့ ရွှေ့ပြောင်းနိုင်မည်ဖြစ်သည်။

ဥပမာ➤ نبيذ သည် خمر ကဲ့သို့ حرام ဖြစ်ပါသည်။ အကြောင်းမှာ ထို نبيذ သည် မူးယစ်စေသောအရာ ဖြစ်သည်။ ကျွန်တော်တို့သည် (نبيذ) အစိတ်အပိုင်းတစ်ခု၏ حرام ဖြစ်ကြောင်းကို အခြား အစိတ်အပိုင်းတစ်ခု (خمر) ၏ အကြောင်းခံဖြင့် သတ်မှတ်ပြောဆိုပါသည်။ ထို نبيذ နှင့် خمر အကြား၌ တူညီနေသော علة သည် မူးယစ်စေခြင်းဖြစ်သည်။ ဤသို့ဖြင့် خمر ၌ ရှိသော حرمة ၏ အမိန့်သည် ကိုယ်စားပြုရန် نبيذ ဘက်သို့ ရွှေ့ပြောင်း ရောက်ရှိလာသည်။

ဤ التمثيل သည် الاستقراء الناقص ကဲ့သို့ ဖြစ်နိုင်ချေရှိသော အဖြေကိုသာနိုင်ပါသည်။

## أركان التمثيل

ကိုယ်စားပြုသည့်အခါ မဖြစ်မနေရှိရမည့် မဏ္ဍိုင်လေးခုရှိပါသည်။

(၁) ပထမမဏ္ဍိုင်- الأصل (ခေါ်) ကိုယ်စားပြုခံအရာဝတ္ထု။
အထက်၌ဖေါ်ပြခဲ့သောပမာတွင် خمر သည် الأصل ဖြစ်သည်။

(၂) ဒုတိယမဏ္ဍိုင်- الفرع (ခေါ်) ကိုယ်စားပြုမည့်အရာဝတ္ထု။
အထက်၌ဖေါ်ပြခဲ့သောပမာတွင် النبيذ သည် الفرع ဖြစ်သည်။

(၃) တတိယမဏ္ဍိုင် -ပထမနှင့်ဒုတိယမဏ္ဍိုင်နှစ်ခုစလုံး၌ အတူပါဝင်နေသော علة ဖြစ်သည်။

(၄) စတုတ္ထမဏ္ဍိုင်- ကိုယ်စားပြုခံအရာဝတ္ထု၌ ရှိသော အမိန့်။
အထက်၌ဖေါ်ပြခဲ့သောပမာတွင် حـــــــــــرام ဖြစ်ခြင်းသည် ကိုယ်စားပြုခံအရာဝတ္ထု၌ ရှိသောအမိန့်ဖြစ်သည်။

## လေ့ကျင့်ခန်း(၂၃)

(၁)ပမာဖေါ်ပြ၍ تمثيل ၏ အဓိပ္ပာယ်ဖွင့်ဆိုပါ။

(၂) الاستقراء နှင့် تمثيل ၏ ကွာခြားချက်ကို ဖေါ်ပြပါ။

(၃) تمثيل ၏ الأركان الأربعة သည် မည်သည့်အရာများ ဖြစ်ကြသနည်း။

(၄) تمثيل ၏ အမိန့်ကို ဖေါ်ပြပါ။ (မည်သည့်ရလာဒ်ကို ဖေါ်ဆောင်နိုင်ပါသနည်း။)

الحجة
القياس
استقراء
تمثيل
التام
الناقص
الإقتراني
الإستثنائي
مركب من متصلة وحملية
مركب من منفصلة حقيقية وحملية
مركب من منفصلة مانعة الجمع وحملية
مركب من منفصلة مانعة الخلو وحملية
الحملي
الشرطي
مركب من متصلتين
مركب من منفصلتين
مركب من متصلة ومنفصلة
مركب من متصلة وحملية
مركب من منفصلة وحملية

## အချုပ်ပို(ဖြည့်စွက်ချက်)

## الصناعات الخمسة

قيـــــاس သည် ရုပ်အသွင်သဏ္ဍာန်ကို အခြေခံပြီး الاقتـــرانــــى قيـــاس စသည့် အမျိုးအစားများ ကွဲပြားခဲ့သည့်အတိုင်း၊ والاستثـنـــائــى ဖြစ်ပေါ်လာရေးအတွက် ပေါင်းစည်းရသော အစိတ်အပိုင်းများ၏ ဖွဲ့စည်းတည်ဆောက်သည့်ပုံစံများကို အခြေခံ၍လည်း قيـــــــاس သည် အမျိုးအစားများ ကွဲပြားပါသည်။

قيـــاس ဖြစ်ပေါ်လာရေးအတွက် ပေါင်းစည်းရသော အစိတ်အပိုင်းများကို အခြေခံ၍ قيـــــاس သည် ငါးမျိုး ခွဲထွက်နိုင်ပါသည်။ ၎င်းတို့အား الصناعات الخمس ဟုခေါ်နိုင်ပါသည်။

(၁) البرهان ခေါ် الـقِيَـاسُ الْبُـرْهَـانِى - တိကျပြတ်သားသော مـقدمة (နိဒါန်း)များဖြင့် ဖွဲ့စည်းထားသော قياس မျိုးဖြစ်ပါသည်။

(၂) الـجدل (ခေါ်) اَلْـقِيَــاسُ الْـجَدَلِـى -ထင်ရှားကျော်ကြားပြီး အများလက်ခံသော مــقــدمة (နိဒါန်း) များဖြင့် ဖွဲ့စည်းထားသော قيـــاس မျိုးဖြစ်ပါသည်။

مثاله : هذا ظلم ,و كل ظلم قبيح, وهذا قبيح هذا أمر , و كل أمر للوجوب , وهذا للوجوب .

(၃) الـخـطابى (ခေါ်) الـقيـاس الـخـطابى - ဝလီသူတော်ကောင်းများ၊ ကျွမ်းကျင်သောသာသနာပညာရှင်များကဲ့သို့ လူအများက ၎င်းတို့ကို မှန်ကန်သူများဟု ထင်မြင်ယူဆခြင်းခံရသူတို့၏ အဆိုများသည် နိဒါန်းများအဖြစ် ပါဝင်သော قياس မျိုးဖြစ်ပါသည်။

هذا قول أبى حنيفة, و كل قول حنيفة صحيح , وهذا صحيح ➢ဥပမာ

(၄) اَلشِّعْرُ (ခေါ်) القياس الشِّعْرِى -ပျော်ရွှင် ဝမ်းနည်းမှုများကို ဖြစ်ပေါ်စေသော ကဗျာဆန်သောအတွေးအခေါ်များမှ ပေါ်ထွက်လာသော နိဒါန်းများဖြင့် ဖွဲ့စည်းထားသော قيـــاس မျိုးဖြစ်ပါသည်။ ဖော်ပြပါ နိဒါန်းများသည် မှားသည်ဖြစ်စေ၊ မှန်သည်ဖြစ်စေ မိမိသည် နားထောင်သူထံမှမျှော်မှန်းသည့်ကိစ္စ ဖြစ်မြောက်သွားစေရန်သာ အဓိကရည်ရွယ်ပါသည်။

(၅) القيـاسُ السَّـفْسَطِىْ -သံသယ နှင့် ထင်ယောင်ထင်မှားဖြစ်စေသော ကိစ္စ များဖြင့် ဖွဲ့စည်းထားသောقيـاس မျိုးဖြစ်ပါသည်။ ဆိုလိုသည်မှာ မှန်ကန်သော အဆိုများဖြင့် အမြင်အရ တူဆင်နေသော်လည်း လုံးဝ မှားယွင်းသည့် သို့မဟုတ် ထင်ယောင်ထင်မှား အဆင့်၌သာရှိသည့်ကိစ္စ ရပ်များသာ ဖြစ်လိမ့်မည်။ السـفسـطى ဟူသောစာလုံးသည် سوف နှင့် إسـطـا ပေါင်းစည်းခြင်းဖြင့် ဖြစ်ပေါ်လာပါသည်။ السـوف ၏ အဓိပ္ပါယ်မှာ الـحـكـمة ဖြစ်ပြီး၊ إسـطـا ၏ အဓိပ္ပာယ်မှာ မှားယွင်းခြင်းဖြစ်သည်။ ထို့ကြောင့် الــقيــاس السـفسـطى ၏ အဓိပ္ပာယ်မှာ မှားယွင်းသော قياس ဖြစ်ပါသည်။

ဥပမာ➢ هذا ميت , و كل ميت يخاف منه , وهذا يخاف منه

ဤအဖြေသည် စဉ်းစားဉာဏ်ကို အသုံးမပြုဘဲ ထုတ်ယူဆင်ခြင်ထားသောအဖြေ ဖြစ်ပါသည်။ အမှန်တကယ် စဉ်းစားဉာဏ်ကို အသုံးပြုလိုက်ပါက ဤသို့ အဖြေထွက်လိမ့်မည်။

أنه جماد , و كل جماد لا يخاف منه فالميت لا يخاف منه.

# လေ့ကျင့်ခန်း(၂၄)

(၁) ရုပ်သွင်သဏ္ဍာန်ကို အခြေခံ၍ قياس သည် အမျိုးမည်မျှရှိပါသနည်း။

(၂) قيـــــاس ဖြစ်ပေါ်လာရေးအတွက် ပေါင်းစည်းရသော အစိတ်အပိုင်းများ၏ ကွဲပြားခြားနားမှုအပေါ် အခြေခံ၍လည်း قيـــــاس သည် အမျိုးအစားများ မည်မျှ ကွဲပြားပါသနည်း။

(၃) الجدل နှင့် الخطابة ၏ ခြားနားချက်ကို ဖေါ်ပြပါ။

(၄) القياس السفسطى ဆိုသည်မှာ မည်သည့်အရာအား ခေါ်ပါသနည်း။

# البرهان

البـرهان ၏ ဘာသာစကားဆိုင်ရာ အဓိပ္ပာယ်မှာ အထောက်အထားဖြစ်သည်။

ဥပမာအနေဖြင့် အောက်ပါအာယတ်တော်၌ တွေ့နိုင်ပါသည်။

﴿قل هاتوا برهانكم إن كنتم صادقين﴾(البقرة : ١١١)

ပညာရပ်ဆိုင်ရာဝေါဟာရ အဓိပ္ပာယ်မှာ-

الـدليـل القطعى المركب من مقدمات يقينية တိကျပြတ်သားသော مـــقـــدمة များဖြင့် ပေါင်းစည်းထားသော တိကျပြတ်သားသည့် အထောက်အထားကို ခေါ်သည်။

**يقينيات** (ခေါ်)တိကျပြတ်သားသော **مقدمة** (၆) ခုရှိပါသည်။

(၁) **الأوليات** ဥပမာ➢ **الواحد نصف الاثنين, الكل أعظم من الجزء**

ဤအမျိုးအစားကို الأوليـات ဟုခေါ်ရခြင်းမှာ ဦးနှောက်သည် အာရုံပြုလိုက်သည်နှင့် ချက်ချင်း ထို قضية များကို သိနိုင်သောကြောင့် ဖြစ်သည်။

(၂) **المشاهدات** ဥပမာ ➤ الشمس مشرقة , النار محرقة

ဤအမျိုးအစားကို المشاهدات ဟု ခေါ်ရခြင်းမှာ လင်းဝင်းတောက်ပမှုနှင့်လောင်းကျွမ်းစေခြင်းသည် مشـــاهـدة (ခေါ်) ကိုယ်တိုင်တွေ့ကြုံ၍သာ သိနိုင်သောကြောင့် ဖြစ်သည်။

(၃) **الْمُجَرَّبَاتُ** ဥပမာ ➤ الماء البارد يزيل العطش وشرب السقمونيا مسهل

ဤအမျိုးအစားကို الـــمُـــجَـــرَّبَةُ ဟုခေါ်ရခြင်းမှာ ရေ၏ အငတ်ပြေစေခြင်းကို အတွေ့အကြုံဖြင့် ခံစားသိနိုင်သောကြောင့်ဖြစ်သည်။

(၄) **الحدسيات** ဥပမာ ➤ صفرة وجه السارق تدل على جنايته

الحدس ၏အဓိပ္ပာယ်မှာ سرعة انتقال الذهن من المبادئ إلى المطالب အများသိနိုင်သည့် အခြေခံကိစ္စများဘက်မှ အများမသိနိုင်သော ဖုံးကွယ်နေသည့်ကိစ္စဘက်သို့ စဉ်းစားတွေးတောမှုသည် အလျင်အမြန် ရောက်ရှိသွားခြင်းကိုခေါ်သည်။ ဖော်ပြပါဥပမာ၌ ခိုးသူ၏မျက်နှာ ဝါနေခြင်းမှာ ၎င်းသည် အပြစ်တစ်ခုခု ကျူးလွန်ထားသည်ကို ဖော်ပြနေပါသည်။

(၅) **المتواترات** ဥပမာ ➤ محمد رسول الله ﷺ , مكة موجودة , بغداد موجودة

(၆) **القضايا التى قياساتها معها** (မိမိတို့၏ **قياس** များနှင့်အတူ ဒွန်တွဲနေသော قضية များ) ဥပမာ ➤ الأربعة زوج

အကြွင်းမကျန်ဘဲ (÷) စားနိုင်သောကြောင့် (၄)သည် စုံဂဏန်းဖြစ်သည်။ ထို့ကြောင့် အကြွင်းမကျန်ဘဲ (÷) စားနိုင်သောဂဏန်းတိုင်းသည် စုံဂဏန်း ဖြစ်သည်။ (၄)လေးသည်လည်း စုံဂဏန်းဖြစ်သည်။

## البرهان ၏ အမျိုးအစားများ

**البرهان** သည် إِنِّيٌّ နှင့် لِمِّيٌّ ဟူ၍နှစ်မျိုးရှိပါသည်။

(၁) လက်တွေ့ ဖြစ်ပျက်နေသော အခြေနေနှင့် ဆင်ခြင်တိုင်းထွာမှု နှစ်ခုလုံးတွင် ဆက်စပ်မှုရှိရေးအတွက် **الـــحـــد الأوســـط** သည် ကြားခံ အဖြစ် ရပ်တည်နေပါက ၎င်း **برهان** ကို **لمّى** ဟုခေါ်သည်။

ဥပမာ ➢ هذا فاسد المعدة , و كل فاسد المعدة مريض , فهذا مريض

အစာအိမ်မကောင်းခြင်းသည် ကျန်းမာရေး ချို့တဲ့ရန် အကြောင်းခံ ဖြစ်သည်။ အစာအိမ်မကောင်းသူတိုင်းကို ကျန်းမာရေး မကောင်းသူဟု ခေါ်နိုင်ပါသည်။

(၂) လက်တွေ့ဖြစ်ပျက်နေသောအခြေအနေနှင့် မသက်ဆိုင်ဘဲ ဆင်ခြင် တိုင်းထွာမှုအရ သက်သက် ဆက်စပ်မှုရှိရေးအတွက် الحد الأوسط သည် ကြားခံအဖြစ် ရပ်တည်နေပါက ၎င်း **برهان** ကို إنّى ဟုခေါ်သည်။

ဥပမာ➢ هذا مريض , و كل مريض فاسد المعدة ,فهذا فاسد المعدة

မကျန်းမမာဖြစ်ခြင်းသည် စဉ်းစားတွေးတောမှုအရ အစာအိမ် မကောင်းခြင်းအတွက် အကြောင်းခံဖြစ်နိုင်သော်လည်း လက်တွေ့ဖြစ်ပျက် နေသော အခြေအနေများကို သုံးသပ်ကြည့်လိုက်ပါက ကျန်းမာရေး မကောင်းသူ အမြောက်အမြားသည် အစာအိမ်ကောင်းနေကြသောကြောင့် မကျန်းမာမှုတိုင်းသည် အစာအိမ်မကောင်းရန် အကြောင်းခံ မဖြစ်နိုင်ပါ။

# လေ့ကျင့်ခန်း(၂၅)

(၁) البرهان ၏ ဘာသာစကားဆိုင်ရာအဓိပ္ပာယ်နှင့် ဝေါဟာရ အဓိပ္ပာယ်ကို ဖော်ပြပါ။

(၂) يقينيات ၏ အမျိုးမည်မျှရှိပါသနည်း။

(၃) برهان ၏ အမျိုးမည်မျှရှိပါသနည်း။

(၄) البرهان الإنّى နှင့် البرهان اللمّى ၏ ခြားနားချက်ကိုဖော်ပြပါ။

تم بعون الله عزّوجلّ

ألفه محمد أفضل بن عبد الرزاق (عفى اللهُ عنهما)

فى ١١/٤/ ٢٠١٥م

# ဝေါဟာရများ (အရဗီ/မြန်မာ)

| | |
|---|---|
| ယုတ္တိဗေဒ | منطق |
| ဒဿနိကဗေဒ | فلسفة |
| သဘာဝ သိပ္ပံဗေဒ | العلم الطبيعي |
| ဖန်ဆင်းရှင်ရှိ/မရှိ (သို့) ဖန်ဆင်းရှင်၏ ရုပ်ခန္ဓာရှိ/မရှိ လေ့လာသော ဘာသာရပ် | العلم الإلهي |
| သင်္ချာ သိပ္ပံဗေဒ | العلم الرياضي |
| အင်ဂျင်နီယာဗေဒ | علم الهندسة |
| သင်္ချာဗေဒ | علم الحساب |
| ဂီတ ဗေဒ | علم الموسقي |
| နက္ခဗေဒ | علم الهيئة |
| ဂျီဩမေတြီ | العلم الأرثماطيقي |
| ပုဒ် | التصور |
| အဆို | التصديق |
| အာရုံသိ (ပုဒ်/အဆို) | بديهي |
| ဆင်ခြင်သိ (ပုဒ်/အဆို) | نظري |
| ယေဘုယျပုဒ် | الكلي |
| ကေဝိဒပုဒ် | الجزئي |
| ညွှန်ပြခြင်း | الدلالة |
| အချိုးညီယေဘုယျပုဒ် | الكلي المتواطى |

| | |
|---|---|
| الكلي المشكك | အချိုးမညီ ယေဘုယျပုဒ် |
| المفرد | စကားလုံး |
| المركب | စကားစု |
| المشترك | အနက်ကွဲပုဒ် |
| المنقول | ရွှေ့ပြောင်းသုံးစွဲခံပုဒ် |
| المركب التام | ဝါကျ |
| المركب الناقص | သာမာန်စကားစု |
| خبر | အတိတ်/မျက်မှောက် ကာလ၏ အဖြစ်အပျက်ကို ဖော်ပြသော သတင်းစကား (မှားမှန်တန်ဖိုးရှိသည်။) |
| إنشاء | အနာဂတ်၌ အလုပ်တစ်ခုခုကို လုပ်ရန် ညွှန်ကြားပေးခြင်း၊ ပန်ကြားခြင်း (မှားသည် မှန်သည်ဟု ဆုံးဖြတ်ချက်ပေး၍ မရပါ။) |
| تقييدي | ကန့်သတ်ချက်ပါဝင်သော စကားစု |
| غير تقييدي | ကန့်သတ်ချက်မဲ့ စကားစု |
| المركب الإضافي | ပတ်သက်မှု/ ပိုင်ဆိုင်မှုပြ စကားစု |
| المركب التوصيفي | စရိုက်၊ လက္ခဏာပြစကားစု |
| الجزئي | ဧကဝိဒပုဒ်/တစ်ဦးဆိုင်ပုဒ်/ မျိုးစိတ်ငယ် |
| الكلي | ယေဘုယျပုဒ် / အများဆိုင်ပုဒ်/ မျိုးစုကြီး |
| جزئي حقيقي | ဓမ္မစစ်သဘောအရဖြစ်သော ဧကဝိဒပုဒ် |
| جزئي إضافي | ယှဉ်ထိုးခြင်းကြောင့်သာဖြစ်သော မျိုးစိတ် |
| التساوي | တူညီဆက်နွယ်မှု |

| | |
|---|---|
| ဆန့်ကျင်ဆက်နွယ်မှု | التباين |
| မျိုးစုနှင့် မျိုးစိတ်တို့၏ ပုံသေဆက်နွယ်မှု | عموم وخصوص مطلق |
| မျိုးစုနှင့် မျိုးစိတ်တို့၏ တစ်စိတ်တဒေသ ဆက်နွယ်မှု | عموم خصوص من وجه |
| ကိန်းသေပုဒ် | ممتنع الأفراد |
| ကိန်းရှင် ယေဘုယျပုဒ် | ممكن الأفراد |
| ဗီဇလက္ခဏာ/ သဘာဝစရိုက်တို့ကို အခြေခံလျှက် ပြုစုထားသော ဂုဏ်တူယေဘုယျပုဒ် | الكلي الذاتي |
| ယာယီအချင်းလက္ခဏာများကို အခြေခံလျှက် ပြုစုထားသော ဂုဏ်တူယေဘုယျပုဒ် | الكلي العرضي |
| သဘာဝစရိုက်တူညီသောအရာများ ပါဝင်သောမျိုးစု | نوع |
| သဘာဝစရိုက်ကွဲပြားသော အရာများပါဝင်သောမျိုးစု | جنس |
| ခွဲခြားပုဒ် | فصل |
| မျိုးစုငယ်အစစ် | النوع الحقيقي |
| မိမိထက်ကြီးသာမျိုးစုကြီးနှင့် ယှဉ်ထိုးမှုကြောင့် မျိုးစုငယ်အဖြစ် သတ်မှတ်ခံရသော မျိုးစုငယ် | النوع الإضافي |
| မျိုးစုငယ် | الجنس القريب |
| မျိုးစုကြီး | الجنس البعيد |
| မျိုးစုငယ်၏ ခွဲခြားပုဒ် | الفصل القريب |
| မျိုးစုကြီး၏ ခွဲခြားပုဒ် | الفصل البعيد |
| အထူးပြုပုဒ် | الخاصة |
| သာမန် ယေဘုယျပုဒ် | عرض عام |

| | |
|---|---|
| شاملة | နှံ့စပ်ပုဒ် |
| غير شاملة | မနှံ့စပ်ပုဒ် |
| الخاصة الشاملة | အထူးပြု နှံ့စပ်ပုဒ် |
| الخاصة غير الشاملة | အထူးပြု မနှံ့စပ်ပုဒ် |
| عرض عام شامل | သာမန် နှံ့စပ်ပုဒ် |
| عرض عام غير شاملة | သာမန် မနှံ့စပ်ပုဒ် |
| المعرِّف | အဓိပ္ပါယ် သတ်မှတ်ခြင်း |
| الحد التام | ခိုင်လုံတိကျသော / အပြည့်အစုံခြုံမိသော အဓိပ္ပါယ် သတ်မှတ်ချက် |
| الحد الناقص | သာမန် အဓိပ္ပါယ် သတ်မှတ်ချက် |
| الرسم التام | အပြည့်အစုံခြုံမိသော အဓိပ္ပါယ်သတ်မှတ်ချက်၊ ခိုင်လုံ တိကျသော အဓိပ္ပါယ် သတ်မှတ်ချက် |
| الرسم الناقص | သာမန် အဓိပ္ပါယ် သတ်မှတ်ချက် |
| التصديقات | အဆိုများ၏ ဖွဲ့စည်းပုံကို လေ့လာခြင်း |
| القضية | အဆို |
| الحملية | သာမန်အဆို |
| الشرطية | ပေါင်းစပ်အဆို |
| الحملية الموجبة | အဟုတ်သာမန်အဆို |
| الحملية السالبة | မဟုတ် သာမန်အဆို |
| القضية الشخصية | ပုဂ္ဂိုလ်ရေးပြအဆို |
| القضية الطبعية | သဘောတရားပြအဆို |

| ကန့်သတ်ချက်ပြုအဆို | القضية المحصورة |
| --- | --- |
| ကန့်သတ်မဲ့အဆို | القضية المهملة |
| အဟုတ် ယေဘုယျ အဆို | الموجبة الكلية |
| အဟုတ် ဧကဝိဒ အဆို | الموجبة الجزئية |
| ကတ္တားပုဒ် | الموضوع |
| ပြင်ပရှိ ကတ္တားပုဒ် | الخارجية |
| သဘောတရားသာရှိသော ကတ္တားပုဒ် | الذهنية |
| ဓမ္မစစ်ရှိသော ကတ္တားပုဒ် | االحقيقية |
| ဆက်နွယ်အဆို | متصلة |
| ခွဲခြားအဆို | منفصلة |
| ကတ္တားနှင့် ဝါစင်္ဂတို့၏ အရင်းခံ ဆက်နွယ်မှုရှိ အဆို | متصلة لزومية |
| ကတ္တားနှင့် ဝါစင်္ဂတို့၏ အရင်းခံမဟုတ်သော ဆက်နွယ်မှု ရှိအဆို | متصلة اتفاقية |
| တိုက်ရိုက်ဆန့်ကျင်အဆို | المنفصلة الحقيقية |
| တပြိုင်တည်း မှန်ခြင်းအတွက်သာ ဆန့်ကျင် အဆို | المنفصلة مانعة الجمع |
| တပြိုင်တည်း မှားခြင်းအတွက်သာ ဆန့်ကျင် အဆို | المنفصلة مانعة الخلو |
| ပထမအဆို | مقدم |
| ဒုတိယအဆို | تالي |
| အရာနှစ်ခုသည် အချင်းချင်း အပြန်အလှန် ဆန့်ကျင်ဘက်ဖြစ်ခြင်း | التناقض |
| ရိုးရိုးပြန်လှန်ခြင်း | العكس المستوي |

| ဆန့်ကျင် ပြန်လှန်မှု | عكس النقيض |
| --- | --- |
| အထောက်အထားကို အသုံးပြုခြင်း | الاستدلال |
| တိုက်ရိုက်ညွှန်ပြသော အထောက်အထားကို အသုံးပြုခြင်း | الاستدلال المباشر |
| တဆင့်ခံညွှန်ပြသော အထောက်အထားကို အသုံးပြုခြင်း | الاستدلال غير المباشر |
| အထောက်အထား | الحجة |
| တြိယတ္တိ ဆင်ခြေ | القياس |
| ပုဒ်ငယ် | الحد الأصغر |
| ပုဒ်ကြီး | الحد الأكبر |
| ပုဒ်လယ် | الحد الأوسط |
| ဌာနေလေးခု | الأشكال الأربعة |
| ကိုယ်စားပြုခြင်း | التمثيل |
| အထောက်အထား | البرهان |

# ကိုးကားထားသောကျမ်းများ

(၁) القرآن الكريم

(၂) الحديث النبوى

(၃) تسهيل المنطق للشيخ محمد أنور البدخشانـى (رحمه الله)

(၄) تفهيم المنطق للأستاذ عبد الله عباس الندوى (رحمه الله)

(၅) wikipedia

(၆) အခြေခံ ယုတ္တိဗေဒ ပါမောက္ခဒေါက်တာ ခင်မောင်ဝင်း
B.A (hons) M.A Ph.D (Yale) နှင့်
လက်ထောက်ကထိက ဦးဆန်းလွင် မဟာဝိဇ္ဇာ (ကျမ်းပြု)

(၇) ပထမနှစ် ဝိဇ္ဇာသင်တန်း ယုတ္တိဗေဒပို့ချချက်များ သင်ရိုးအမှတ် (၁၀၁)
အတွဲ(၁) စာပြင်သူ ဦးလှမင်း

(၈) المرقات للفاضل مولانا محمد عماد الدين الشيركوتـى (عفى الله عنه)

(၉) شرح التهيذيب للعلامة عبد الله يزدى (عفى الله عنه)

(၁၀) القطبـى للشيخ قطب الدين أبي عبدالله محمد التحتانـى الرازى (عفى الله عنه)

(၁၁) ايسا غوجى لمولانا أثير الدين الأبهرى (عفى الله عنه)

(၁၂) تسهيل المنطق (اردو)